ပထမအကြိမ် ၂၀၁၃ ခုနှစ် ဧပြီလ

ထုတ်ဝေသူ ဒေါ်မိုးကေနိုင်၊ ချိုတေးသံစာပေ၊
မြို့(၀၁၆၉၂)၊ ရွှေနှံ့သာကျေးရွာ၊
ပုလဲမြို့သစ်၊ မင်္ဂလာဒုံ။

ပုံနှိပ်သူ ဦးစည်သူကိုကို၊ တော်ဝင်ထွန်းပုံနှိပ်စက်
(ယာယီ-၈၈၆၄)၊ အမှတ်(၅၇)၊ (၅၂) လမ်း၊
ဗိုလ်တစ်ထောင်မြို့နယ်၊ ရန်ကုန်။

ကွန်ပြူတာစာစီ DREAM CITY

မျက်နှာဖုံးဒီဇိုင်း ကိုနေခြည်

အတွင်းဖလင် ရာဇာမျိုးဝင်း

စာအုပ်ချုပ် စိန်

အုပ်ရေ ၁၀၀၀ အုပ်

တန်ဖိုး ၁၀၀၀ ကျပ်

ဖြန့်ချိရေး အရှေ့ဘက်ကျောင်းတော်စာပေ
အမှတ်(၂၈၄)၊ ပထပ်၊ လမ်း(၄၀)၊
ကျောက်တံတားမြို့နယ်ရန်ကုန်။
ဖုန်း-၀၉၄၄၈၀၄၇၆၁၆၊ ၀၉၄၂၁၀၅၆၁၃၅၄။

စံလှစာပေ
အမှတ် (၁၈၀)၊ (၂၉) လမ်း
ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့။
ဖုန်း - ၀၁ - ၂၄၆၆၂၁၊ ၃၇၃၈၄။

# မာတိကာ



## ဝိယဆေး

ကျုပ်နာမည်က ဘာတေပါ။ ကျုပ်နေတာက အညာဒေသပေါ့ ဗျာ။ ကျုပ်တို့ရွာကို ထနောင်းကုန်းလို့ ခေါ်တယ်။ အိမ်ခြေတော့ တစ်ရာလောက် ရှိသပေါ့။ သူကြီးက ဦးဘိုးထင်ဗျ။ လွှတ်စိတ်တိုတဲ့ အဘိုးကြီးပါဗျာ။ ကျုပ်တောင် ရွာထဲမှာ ရန်ဖြစ်လို့ ခြောက်ပေါက်ထဲ ဝင်လိုက်ရသေးဗျား။ ခြောက်ပေါက်ဆိုတာ ထိတ်တုံးကိုပြောတာ လေ။ ကျုပ်မိဘတွေကတော့ လူချမ်းသာတွေတော့ မဟုတ်ဘူးပေါ့ ဗျာ။ အသင့်အတင့်ပါပဲ။ စားနိုင်သောက်နိုင်ထဲကပေါ့။

[illegible]တော့ လပ်ယားလပ်ယားပါပဲ။ ယာထဲလည်း သိပ် [illegible]း။ တစ်ခါတလေ အဖေ့ကို လိုက်ကူတာလောက် ရှိတာ ပါ။ ကျုပ်က လူမှုရေးသမားဗျ။ ရွာရေး၊ ရပ်ရေးဆိုလျှင်တော့ ကျုပ် ပေါ်လို့ ပြီးတာ မဟုတ်ဘူးလေ။

"ဘာတေရဲ့ အလှူကြီးစွတိုင်ပင်ချင်လို့ အိမ်ဘက်ကို လျှော့[illegible] ခဲ့ပါဦးကွ"

အရှေ့ဘက်ကောင်းကင်

လို့ကို တာကျိုးတာက လာပြီး ဖိတ်မန္တက ပြုရတဲ့ကောင်လေ။ ကျုပ်ကလည်း ရပ်ရေးရွာရေး လုပ်နေကြဆိုတော့ အထာက သိပြီး သားဗျ။ ကျုပ်လုပ်ရင် ဘာမဆို သပ်သပ်ခပ်ခပ်ကို ပြီးသွားတာ။ အဖေနဲ့အမေကလည်း ကျုပ်က ရွာထဲမှာ အရေးပါတဲ့လူဖြစ်နေတာကို သဘောကျကြတယ်လေ။

ဒါပေမဲ့ ခက်တာတစ်ခုရှိတယ်ဗျ။ အဲဒါက ကျုပ်ဝါသနာလေ။ ဘာလဲဆိုတော့ အားကြီး စပ်စုချင်တာဗျ။

ကျုပ်က ငယ်ငယ်ကတည်းက ဘာမဆို လွှတ်သိချင်တာလေ။ ထူးထူးဆန်းဆန်း တိုစွဆိုရင် မိုတောင် ဆိုးသေးဗျာ။ ဘယ်ရွာမှာ ဆွဲကြိုးချသေလို့တဲ့ ဆိုရင် တာတေ ရှေ့ဆုံးက ရောက်ပြီးသားဗျ။ ဘယ်သူ ဗိုးထိုးလို့ဆိုရင် တာတေ ရှေ့ကပဲ။ တာတေ့လက်ပေါ်မှာ တင် ဆုံးသွားတဲ့လူတွေ မနည်းတော့ဘူးလေ။

ဒီတော့လည်း ထနောင်းကုန်းက တာတေဆိုရင် အနီးအနားက ဘန့်ဘွေးကုန်း၊ ဝဏ္ဏစု၊ ငွေတွင်းကုန်း၊ သာယာကုန်း စတဲ့ရွာတွေက မသိတဲ့သူ မရှိသလောက်ပါပဲ။

အဲဒီရွာတွေထဲမှာ ဘန့်ဘွေးကုန်းက ကိုပေသီးကိုတော့ တာတေ တော်တော်ခင်တာဗျ။ ဘာဖြစ်လို့လဲဆိုတော့ ကိုပေသီးကလည်း တာတေလိုပဲ။ နေရာတကာ စပ်စပ် စပ်စပ်နဲ့ ပါတဲ့လူ။ ဒါပေမဲ့ သူက ပရောဂကို လွှတ်ဝါသနာပါတဲ့လူ။ ဟိုရွာ ဒီရွာတွေ သွား ဆရာတွေနောက် လျှောက်လိုက် ပြီးတော့ ပညာယူဆိုပဲ။ ကိုပေသီး ပရောဂကုတဲ့နောက်ကို တာတေ့ တစ်ခါနှစ်ခါ လိုက်သွားဖူးတယ်။

အရှေ့ဘက်ကောင်းကင်

ကိုပေသီးက ဆိုးတော့မဆိုးဘူးဗျ။ လူပုံကတော့ အရပ်ပုပြွတ်ပြွတ်၊ ဂုဏ်ဆိုစိုး အသား ခပ်မည်းမည်း၊ မျက်လုံးက ပြူးပြူး၊ နှာခေါင်းကကြီးကြီး။ ဒီကြားထဲမှာ ခန့်ညားအောင်ဆိုပြီး နှုတ်ခမ်းမွေးကလည်း ထားလိုက်သေးသဗျ။ သူ့နှုတ်ခမ်းမွေးကြီးကလည်း အဖြူအကြီးကြီးဆိုတော့ ခန့်ညားတာ မခန့်ညားတာတော့ မသိဘူး သူ့မျက်နှာကြီးကတော့ ကြောက်စရာ တော်တော်ကောင်းတာဗျို့။ ပရောဂချုတ်ပြီဆိုရင်–

"အရှေ့နေထွက်၊ အနောက်နေဝင်၊ တောင်တံငါကွန်၊ မြောက်မှုံအဖျွင်း မှုန်းခြင်း၊ စိုခြင်း၊ ကပ်နေခြင်း မရှိစေရ။ ဆရာ့ ဆရာကြီးတွေရဲ့ တပည့်ကျော် ငါဆရာပေသီးရဲ့အမိန့် အခုချက်ချင်း ချင်းဆိုချင်း၊ နင်းဆိုနင်း၊ ဝင်ဆိုဝင်၊ ကပ်ဆိုကပ်၊ ပူးဆိုပူး၊ ဗျမ်း ..."

"အောင်မယ်လေးတော့"

"အောင်မယ်လေးဗျ"

ကိုပေသီးက အမိန့်ပြန်တမ်းအဆုံးမှာ လက်ထဲက ခေါင်းကြိမ်လုံးနဲ့ ကြမ်းပြင်ကို ဗျမ်းကနဲ ရိုက်လိုက်တော့ ပရောဂတော့မသိဘူး ဘေးကဝိုင်းကြည့်နေတဲ့လူတွေ လန့်ပြီး ထအော်ကြတော့တာပဲဗျို့။ ကျုပ်တောင် တုန်သွားသေးတယ်။

ကိုပေသီးကတော့ ခပ်တည်တည်ပဲဗျ။ နှုတ်ခမ်းမွေးဖြားဖြားကြီးကို လက်နဲ့တစ်ချက်သပ်လိုက်ပြီး ပရောဂကုတဲ့မိန်းမကို သူ့မျက်လုံးပြူးပြူးကြီးနဲ့ စိုက်ကြည့်နေတာ မျက်တောင်တစ်ချက်မခတ်ဘူးဗျို့။

သူ့ရှေ့မှာ ကြုံ့ကြုံ့ကလေးထိုင်ပြီး ဘုရားစင်ကို လက်အုပ်ချီထားတဲ့ မိန်းမက လက်တွေ ကွေးကောက်လာတော့တာပဲ။

"လာခဲ့ ... လာခဲ့ ငါဆရာပေသီး ရှေ့မှောက် အရောက်လာခဲ့၊ ချင်းဆိုချင်း၊ နှင်းဆိုနှင်း၊ ကပ်ဆိုကပ်၊ ဝင်ဆိုဝင်၊ အခုဝင်လိုက်စမ်း ဗျမ်း"

"အောင်မယ်လေး"

ကိုပေသီးက ကြမ်းပြင်ကို ဆေးကြိမ်လုံးနဲ့ ဗျမ်းခနဲ ရိုက်၊ လူတွေကလည်း လန့်အော်။ ဒါပေမဲ့ ကျုမ်ကြည့်တယ်မျှ သူတို့ အားလုံးမျက်လုံးတွေကတော့ ပရောဂပူးနေတဲ့ မိန်းမကို စိုက်ကြည့်နေလိုက်ကြတာ အသက်တောင် ရှူမိကြပုံမပေါ်ဘူးဗျို့။

တဖြည်းဖြည်းနဲ့ ကျုံ့ကျုံ့ထိုင်နေတဲ့မိန်းမက တုန်တုန်ရီရီ ဖြစ်လာပြီး အတုန်ရပ်သွားတဲ့အချိန်မှာ ကျုံ့ကျုံ့ထိုင်ရာကနေ ဆတ်ခနဲ တင်ပျဉ်ထချိတ်တော့တာပဲဗျာ။ ပြီးတော့ ဆရာကိုပေသီးကိုလည်း ရှူးရှူးကြီးကြည့်နေတော့တာ။ ကိုပေသီးကလည်း အာရမလဲ ပရောဂကို မျက်တောင်မခတ်ဘဲ ပြန်ကြည့်တယ်ဗျို့။

"သြော်... ယောကျ်ားကိုး၊ ငါက မိန်းမကပ်နေတယ်ထင်တာ၊ ကဲ ပြောစမ်းပေါ့ကောင် မင်းဘယ်သူတုံး"

ကိုပေသီးက လက်ထဲက ဆေးကြိမ်လုံးကို မြှောက်ပြီး ရိုက်မလို လုပ်မေးတာဗျ။ ဒါပေမဲ့ ဝင်ပူးနေတဲ့ သရဲက နည်းနည်းတောင် မတွန့်ဘူးဗျို့။

"မင်း ငါ့ကို ရိုက်ရဲရင် ရိုက်လိုက်လေကွာ ဒီမိန်းမအသက်ကို အခုချက်ချင်း နှုတ်ပစ်လိုက်မယ်။ ငါ့ကို ဘာများအောက်မေ့နေကြ တုံး"

"အေး မင်းကို ငါ မရိုက်ဘူး။ မင်း ဘယ်သူလဲဆိုတာပြော"

"ငါက နောက်ဘက်တောမှာနေတဲ့ကောင်ပေါ့"

"ဟင် အနောက်ဘက်တောမှာနေတဲ့ကောင်က မပုကြည်ကို ဘာကြောင့် ဝင်ကပ်နေတာတုံး"

"ဟောဒီကောင်မက အားကြီးနှုတ်ကြမ်းတာ၊ ငါနေတဲ့ ကျည်းပင်ကြီးအောက်မှာ လာပြီး စတည်းချတယ်။ ချက်ပြုတ်စားတယ်။ တောထဲ ဝါးလာခုတ်တိုင်း ငါ့အပင်အောက်မှာ စတည်းချတာ။ ပါးစပ်က ဖွတ်ကြမ်းတဲ့မိန်းမကွ။ ငါတို့လို သက်ကြီးဝါကြီးတွေကို အစားအသောက်ကလေး တစ်ဆုပ် တစ်လုတ် ကျွေးရမှန်းလည်း မသိ။ လင်ကို ဆဲလိုဆဲ။ ယုတ်ယုတ်မာမာတွေကလည်း ပြောလိုက် တာ လွန်ပါရော။ သင်းကို ကျောင်းမှန်းကန်မှန်းသိအောင် ငါလုပ် ထားတော့ ဒီကောင်မ တစ်နေ့သုံးခါ ဗိုက်အောင့်တယ်မို့လား။ လိမ့် နေအောင် ခံရတာမို့လား။ အေး မှတ်လောက်သားလောက် ရှိအောင် ငါလုပ်ထားတာ"

"မင်း နာမည် ဘယ်သူလဲ"

"ငါ့နာမည်တော့ ငါမသိဘူး။ တခြားသရဲတွေ ခေါ်ကြတာ ကတော့ မွေးနီကြီးတဲ့"

"အသက် ဘယ်လောက်ရှိပြီလဲ"

"ငါ အနောက်ဘက်တောကို ရောက်တော့ နင်တို့ရွာ ဒီနေရာမှာ ရှိတောင်မရှိသေးဘူး။ ငါ့အသက်က လေးရာကျော်ပြီ"

"ဟာ"

အားလုံး တအံ့တသြ ဖြစ်သွားကြတယ်။

"ငါလုပ်ရင် နင်တို့ ရွာစဉ်လုံး တန်းစီသေသွားမယ် ဘာမှတ်သလဲ"

"ကဲ ... ကဲ အနောက်ဘက်တောမှာနေတဲ့ ကျုပ်ထက် အသက် အပုံကြီးကြီးတဲ့ ဘမွေးနီကြီးဗျာ၊ ကျုပ် ဆရာပေသီးက မေတ္တာရပ်ပါတယ်။ မပုကြည်ကို ကျုပ်တို့အားလုံး ဝိုင်းဝန်း ဆုံးမပါ့မယ်။ နောက်ကို နှုတ်အာ မကြမ်းတမ်းဖို့ ပြီးတော့ ဘမွေးနီနေတဲ့ ကျည်းပင်ကြီးအောက်မှာ စတည်းချ ချက်ပြုတ်စားတဲ့အခါတိုင်း ဘမွေးနီကိုလည်း ဖိတ်မန္တကပြုပြီး ကျွေးဖို့ မွေးဖို့ ပြောပေးပါ့မယ်။ အခု ဘမွေးနီ ဘာများအလိုရှိပါသလဲ"

ကိုပေသီးက လေခြောက်လေးနဲ့ မေတ္တာရပ်ခံတယ်ဗျ။ မွေးနီကြီးကို နည်းနည်းလန့်သွားသလားတော့ မပြောတတ်ဘူးဗျို့။ အမြဲ တမ်း တဝင့်ဝင့်လုပ်နေတဲ့ သူ့ဆေးကြိမ်လုံးကိုတောင် ကြမ်းပြင်မှာ ချထားလိုက်သဗျ။

"ငါ့ကို အမဲသားကျွေးကြ"

"အာ ကျွေးပါ့မယ်ဗျာ၊ ကျွေးပါ့မယ်။ ဘယ်လောက်များ စားချင်ပါသလဲ"

"သုံးပိဿာကျွေး"

"သုံးပီသော် ဟုတ်လား။ ကျေးမယ်ဗျာ ကျေးမယ်။ မနက်ဖြန် ညနေ နွားရိုင်းသွင်းချိန်မှာ ဘမွေးနိ်နေတဲ့ ကျည်းပင်ကြီးအောက်ကို လာပို့ပေးမယ်။ ကျုပ်ကိုယ်တိုင်လာပို့မယ်။ အခုတော့ ပုကြည်မကို လုပ်ထားတာတွေ တစ်ခုမကျန် ပြန်ပြီးနုတ်သွားပေးပါဗျာ မေတ္တာ ရပ်ခံပါတယ်။ ပုကြည်မ မိမွေးတိုင်း ဘမွေးတိုင်း ဘာမှ ကပ်ငြိ မကျန်ရစ်ခဲ့အောင် နုတ်ယူသွားပါ ဘမွေးနီ"

"အေး ကောင်းပြီ၊ ငါလုပ်ထားတာတွေ ငါ အခု ပြန်သိမ်းလိုက်မယ်။ နင်တို့ ကတိမတည်လို့ကတော့ တစ်ရွာလုံးကို ငါအသေသတ်မယ်"

"ဟာ မလုပ်ပါနဲ့ ကျေးပါ့မယ်"

ဘောကြည့်နေတဲ့သူတွေ လန့်ပြီး တစ်ယောက်တစ်ပေါက် အော်ကြတော့တာပေါ့ဗျာ။

"ဒီအတွက်တော့ စိတ်ချပါ။ ကျုပ်ဟာ သီလ သမာဓိနဲ့ ပြည့်စုံတဲ့ ဆရာပေသီးပါ။ ကျုပ် အာမခံပါတယ်"

လို့ ကိုပေသီးက ရပ်တည်ကြီးနဲ့ ပြောလိုက်တော့ မပုကြည် တစ်ကိုယ်လုံး တဆတ်ဆတ် တုန်လာတော့တာပဲဗျာ။ လက်ကြီးတွေ ကားပြီး လေထဲကို မြောက်တက်လာတယ်။ ပြီးတော့ သူ့တစ်ကိုယ်လုံးကို လက်ဖဝါးနဲ့ သပ်ချတယ်ဗျ။ လေး၊ ငါးခါ သပ်ချလိုက်ပြီး တော့မှ။

"ဝါး"

ပါးစပ်ဖြဲပြီး သမ်းလိုက်တယ်။ မပုကြည်လည်း ထိုင်နေရာ ကနေ ပျော့ခွေကျသွားတော့တာပဲ။

"ဟဲ့ … ပုကြည် … ပုကြည်"

ကိုပေသီးရဲ့ကျယ်ကျယ်ကြီးနဲ့ အော်ခေါ်တဲ့အသံကြောင့် မပုကြည် ဆတ်ခနဲဖြစ်ပြီး ခေါင်းမော့လာတယ်။ ကိုပေသီးက သူ့ရှေ့မှာ ချထားတဲ့ ရေစင်ခွက်ထဲက ရေနဲ့ မပုကြည်ကို နှစ်ခါသုံးခါ ပက်လိုက်တယ်။ ပြီးတော့ မျက်လုံးထဲကို မျက်စဥ်းလို ခတ်ပေးလိုက်သေးတယ်ဗျ။

"ကဲ … အားလုံး ရှင်းသွားပြီ။ ပုကြည်ရေ နှင့်ပါးစပ်ကို နှင်ဒီကနေ့ကစပြီး ထိန်းပေတော့။ နှင် ကံကောင်းလို့ မသေတာ။ ငါလို ဆရာနဲ့တွေ့ပေလို့ပေါ့။ တော်ရုံတန်ရုံဆရာနဲ့ တွေ့လို့ကတော့ နှင့်အသက်ပါသွားလောက်ပြီပော့။ နဲတဲ့ကောင်ကြီး မဟုတ်ဘူး။ ခင်ဗျားတို့အားလုံး ကြားလိုက်တဲ့အတိုင်းပဲလေ"

"ဟုတ်ပတော် ပုကြည့်ရယ်၊ နှင်လေ ဆရာကိုပေသီး ကယ်လိုက်ပေလို့ပဲ နှင်မလွယ်ဘူး။ နှင့်ပါးစပ်ကလည်း တယ်ကြမ်းသကိုး ကဲ … ကဲ မနက်ဖြန်ကို မြို့ကို စောစောထသွား။ အမဲသား သုံးပိဿာ ဝယ်ခဲ့"

အရီးဒွေါ်လုံးကြည်က ပြောလိုက်တော့ မပုကြည်ရဲ့ယောက်ျားကိုသာဒွန်းက …

"စိတ်ချ အရီး၊ ကျုပ် မနက်ကို ဝေလီဝေလင်းထသွားပြီး ဝယ်လာခဲ့မယ်။ မနက်ဖြန်ညနေ သွားရင်တော့ ဆရာကိုပေသီး လိုက်ခဲ့ပါဗျာ။ ကျုပ်တို့ချည်း မသွားရဲဘူးဗျ"

"အေးပါ ငါလိုက်ခဲ့ပါမယ် သာဒွန်းရာ၊ ပြီးတော့ မနက်ဖြန်ကြရင် ငှက်ပျောဖက်ကြီးကြီး သုံးလေးရွက် ခုတ်ထားကြပော့"

"စိတ်ချ စိတ်ချ ကိုပေသီး၊ ကျုပ်တို့ အားလုံး အဆင်သင့် လုပ်ထားလိုက်ပါမယ်"

ပရောဂဏုတ်တဲ့ပွဲကတော့ အောင်အောင်မြင်မြင်ကို ပြီးသွားတာဗျို့။ နေ့တိုင်း ဗိုက်အောင့်လို့ အော်နေရှာတဲ့ မပုကြည်လည်း ယူပစ်သလိုကို ပျောက်သွားရှာဗျို့။

ရွာသားတွေ အားလုံး အံ့သြကြတာပေါ့ဗျာ။ ကိုပေသီးရဲ့ သတင်းလည်း ကျော်ထွက်လာတော့တာပေါ့လေ။ ဟိုရွာကလာခေါ် ဒီရွာက လာခေါ်နဲ့ လက်တောင်မလည်ဘူးဆိုပါ။ ကျုပ်လည်း နောက်ပိုင်းတော့ ကိုပေသီးနဲ့ သိပ်မတွေ့ဖြစ်တော့ပါဘူးဗျာ။



တစ်နေ့တော့ ကျုပ်လည်း ပျင်းပျင်းရှိတာနဲ့ မန်ကျည်းပင် အောက်က ကွပ်ပျစ်မှာ တုံးလုံးလဲနေခဲ့တယ်ဗျ။

"ကိုကြီးတာတေ ကိုကြီးတာတေ"

"ဟေ့လကွာ၊ ဘယ်သူတုံးဟ လာခဲ့ လာခဲ့၊ ငါ ဒီမှာရှိတယ်"

ကျုပ်က မကျည်းပင်အောက်က အသံပြုလိုက်တော့ ခိုင်းထဲကို ကောင်လေးတစ်ယောက် ဝင်လာတယ်။

"ဟ မျက်ပြူးပါလား၊ လာလေကွာ"

မျက်ပြူးက ကျုပ်လှဲနေတဲ့ ကွပ်ပျစ်အစပ်မှာ ဝင်ထိုင်လိုက်တယ်။

"ကိုကြီးတာတီး ရွာပြင်ဘက်က ဇရပ်ပေါ်မှာ လူကြီး တခ်

ယောက် ရောက်နေတာယ်ဗျ။ အဲဒီလူကြီးက ပြောနိုင်းလိုက်လို့ ကျုပ်လာပြောတာ"

"ဟော ဘယ်သူတုံးကွ"

"ကျုပ်လည်း မသိဘူးဗျ။ ကျုပ်တို့ ထနောင်းကုန်းကတော့ မဟုတ်ဘူး"

"လူပုံလည်း ပြောဦးလေ မျက်ပြူးရဲ့"

"အသားမည်းမည်း မျက်လုံးပြူးပြူး နှုတ်ခမ်းမွေးကြီးနဲ့ဗျ။ လူမှုံစံကတော့ တစ်မျိုးကြီးပဲ ကိုကြီးတာတီးရ"

"ဩော်... အရုပ်ပုပုလား"

"ဟုတ်တယ် အရုပ်ပုပုနဲ့လူကြီးဗျ"

"ဩော်... ငါသိပြီ မျက်ပြူး၊ အဲဒါ ကိုပေသီးပဲ။ အေး... အေး ငါသွားလိုက်မယ်။ ဒီလူ ဘာမျှားကိစ္စရှိလို့ပါလိမ့်"

မျက်ပြူးပြန်သွားတော့ ကျုပ်လည်း ပုဆိုးတစ်ထည် ပခုံးပေါ် တင်ပြီး ထွက်လာခဲ့တာယ်။ ရွာပြင်က ဇရပ်ပေါ်ရောက်တော့ မျက်စေ့ ကြီး စုံမှိတ်ပြီး တရားထိုင်သလို ဘာလို လုပ်နေတဲ့ ကိုပေသီးကို တွေ့လိုက်တယ်။ ကျုပ် ခြေသံကြားတော့ မျက်စေ့ပြူးပြူးကြီးကို ဖွင့်ကြည့်ပြီး—

"ဟာ တာတေ လာကွာ။ ငါ မင်းနဲ့ တွေ့ချင်လို့ လာခဲ့တာကွ"

"ကိုပေသီးကလည်းဗျာ။ ရွာထဲဝင်ခဲ့ရင် ပြီးရော။ အိမ်လည်း သိလျက်သားနဲ့။ ကဲလာ အိမ်ကို သွားမယ်"

ကိုပေသီးက ကဗျာကယာ လက်ကာပြတယ်ဗျ။

"မဟုတ်ဘူးတာတော့ရဲ့။ ငါတို့က ဆရာသမားတွေကွ ရွာတစ်ရွာကို ဝင်ချင်တိုင်းဝင် ထွက်ချင်တိုင်းထွက်လို့ မကောင်းဘူးလေကွာ။ ရွာတိုင်းမှာ ရွာသူဆိုတာ ရှိတယ်။ ရွာစောင့်တွေ ရှိတယ်။ သူတို့ကို အကြောင်းပြပြီးမှ ဝင်လို့ထွက်လို့ ရတာကွ။ ဒါကြောင့် အလုပ်ရှုပ်လို့ မဝင်တော့တာ။ ဒီမှာပဲ ပြောစရာကိစ္စကို ပြောကြတာပေါ့ကွာ"

"ဩော် ဒါကြောင့်လား ကဲ... ဒါဆိုလည်း ဒီမှာပဲ ပြောကြတာပေါ့ဗျာ"

ကိုပေသီးက သူ့လွယ်အိတ်ကြီးထဲက သနပ်ဖက်ဆေးလိပ်အသစ်တစ်လိပ်ကို ထုတ်ပေးပြီး

"ကဲ ဆေးလိပ်ကလေး ဖွာလိုက်ပါဦးကွာ။ အမောပြေပေါ့"

လို့ ပြောရင်း မီးခတ်ကလေး ထုတ်ပေးသဗျာ။ ကိုပေသီး ကိုင်နေကြ မီးခတ်ကလေးဗျ။ ခနဲ့ဖြူကလုပ်တဲ့ ကြေးဝါမီးခတ်လေ။ ကျုပ်လည်း ဆေးလိပ်မီးညှိပြီး တစ်ဖွာနှစ်ဖွာ ဖွာလိုက်တယ်။ ကိုပေသီးက စကားစတယ်။

"ငါလာတာ ကိစ္စ တစ်ခုရှိလို့ကွ တာတေရဲ့။ ဒီနေ့မနက် အစောကြီးက တို့ရွာတောင်ဘက်က ချောင်းကုန်းမှာ ကောင်မလေးတစ်ယောက် ပိုးထိပြီး သေသွားတယ်ကွာ"

"ကိုပေသီး မြွေကုနိုင်တာပဲ။ သွားမကုဘူးလား"

"ငါကိုလာပင့်လို့ လိုက်သွားတယ်လေ၊ ဒါပေမဲ့ ငါရောက်တော့ မမီတော့ဘူး တာတေရ၊ ကောင်မလေး ဆုံးသွားပြီ"

"အို ဖြစ်မှဖြစ်ရလေဗျာ"

"အေး မြွေဆိပ်က တစ်ကိုယ်လုံး ပြန့်နေပြီကွာ။ ငါရောက်တော့ တစ်အိမ်လုံး ငိုနေကြပြီ။ ငါလည်း အိမ်ပေါ်မတက်တော့ဘူးလေကွာ။ လှည့်ပြန်လာခဲ့တယ်။ အဲဒီမှာတင် ငါ့အရှိန်း အဲ့သြသွားတာကွ"

"ဟင် ဘယ်လိုဖြစ်လို့လဲ"

"ဒီလိုကွ တာတေရ၊ ဒီနေ့ တနင်္ဂနွေနေ့ မဟုတ်လား"

"ဟုတ်တယ်လေဗျာ၊ ဒီနေ့ တနင်္ဂနွေနေ့"

"အေး ကောင်မလေးဆုံးတာ မနက် ငါးနာရီထိုးလောက်ကွ၊ အဲဒါ တနင်္ဂနွေအခါပဲကွ၊ ပြီးတော့ ဒီနေ့က ပြာသိုလဆန်းတစ်ရက်လေ။ ပိုးထိတဲ့ ကောင်မလေးက အသက် ၁၆ နှစ်တဲ့ အပျိုစစ်စစ်ပဲ။ နာမည်က မအေးဝင်းတဲ့ တနင်္ဂနွေသမီးတဲ့ကွ"

"ဟင် အဲဒီတော့ ဘာဖြစ်တုံးဗျ ကိုဖေသီးရဲ့"

"ဟာ အဲဒါမျိုးက အင်မတန်ကြုံတောင့်ကြုံခဲကွ တာတေရ၊ ပီယဆေးကွ၊ ပီယဆေး"

"ဗျာ... ပီယဆေး ဟုတ်လား ကိုဖေသီး"

"ဟုတ်တယ်လေကွာ။ ပီယဆေးဖော်လို့ရတယ်ကွ"

"ပီယဆေး ဆိုတာ တကယ်ကော ရှိလို့လားဗျ"

"ဟာကောင် တာတေရ ရှိတာပေါ့ကွ။ သိပ်ရှိတာပေါ့။ ပီယဆေး ဆိုတာ ယောကျ်ား၊ မိန်းမ ကိစ္စတင် ပြောတာမဟုတ်ဘူးကွ

ကိုယ်ပြောသမျှ အောင်တာကွ။ ကိုယ်လိုချင်တာ အကုန်ရတာကွ။ စီးပွားရေးလုပ်ရင် မင်း သူဌေးဖြစ်ပြီပေါ့ကွ။ မင်းမလိုချင်ဘူးလား"

"ဟာ ဒီလိုဆိုရင် လိုချင်တာပေါ့ဗျ။ ဒီဆေးသာရရင် မြို့တက်ပြီး ပဲပွဲရုံ၊ နှမ်းပွဲရုံ ထောင်ပစ်လိုက်မှာပေါ့ဗျ"

"အေးပေါ့ကွ တာတေ့ရ"

"ကဲ ပြော်ဗျာ ကိုမေသီး၊ ဘယ်လိုလုပ်ရမှာလဲ"

"ဟာ ဒါတွေ ဝါတတ်ပါတယ်ကွ။ ငါပိုင်ပါတယ်။ အေး အခုလိုမျိုး လတစ်လရဲ့ လဆန်းတစ်ရက်မှာ တနင်္ဂနွေကျဖို့။ အဲ.... ဒီတနင်္ဂနွေကျတဲ့လမှာ တနင်္ဂနွေအခါမှာ တနင်္ဂနွေသမီး အပျိုစစ်စစ်တစ်ယောက် အစိမ်းသေသေဖို့ဆိုတာတွေက ကြုံဖို့ မလွယ်ဘူးကွ။ အခုတော့ ကြုံပြီဟေ့။ စောစောကပဲ သူတို့ အသုဘချလိုက်ကြပြီ။ မြှုပ်ထားတဲ့မြေပုံကို သေသေချာချာ မှတ်ပြီးမှ ငါ မင်းဆီကို လာခဲ့တာကွ"

"ဟင် ချက်ချင်း သင်္ဂြိုဟ်တာလား"

"ဟာ ဒါမျိုးက ရက်မထားကြဘူးကွ အစိမ်းသေလေ။ ချက်ချင်း ချရတယ်။ ရက်ထားရင် ရွာနိုက်တတ်တယ်ကွ"

"ဪ... ဒီလိုလား"

"အေး... ညမိုးချုပ်တာနဲ့ မင်း ပေါက်တူးတစ်လက်ဆွဲပြီး ရွတွင်းကုန်းသုသာန်ကို လာခဲ့ပေတော့။ ငါလည်း ပေါက်တူး တစ်လက် ယူခဲ့မယ်။ ပြီးတော့ လိုတာတွေ ငါ အားလုံးယူခဲ့မယ်။ မင်း လာခဲ့ရဲ့လား တာတေ"

"ဟာ ကိုပေသီးကလည်း တာတေပါဗျ။ ဒီလို ထူးထူးဆန်းဆန်း ကိစ္စမျိုးဆိုရင် တာတေတို့က အခုလား ဆိုတာမျိုးဗျ။ စိတ်သာချ ညကျရင် ကျုပ်အရောက်လာမယ်"

"အေး ကောင်းပြီ။ တို့က သန်းခေါင်မကျော်ခင် လုပ်ရမှာနော်။ ဟိုဘက်ရက်ကို ကူးသွားရင် မအောင်တော့ဘူးသိလား"

"ဩော် ဒီလိုလား။ တနင်္ဂနွေမကျော်ခင် အပြီးစီရင်ရမှာပေါ့"

"အေး ဟုတ်တယ် တာတေရေ၊ ကဲ ငါ ရွာပြန်ပြီး စီစဉ်စရာတွေ စီစဉ်လိုက်ဦးမယ်"

ကိုပေသီး ပြောပြောဆိုဆိုနဲ့ လွယ်အိတ်ကြီးလွယ်ပြီး ထွက်သွားတယ်။ ကျုပ်လည်း ရွာကို ပြန်လာခဲ့တာပေါ့။ ကိုပေသီး ပြန်သွားတော့ပဲ ညနေစောင်းနာရီသောက် ရှိနေပြီဗျ။ ကျုပ်လည်း မန်ကျည်းပင်အောက်က ကွပ်ပျစ်မှာ အသာပြန်ထိုင်ပြီး ကိုပေသီးပြောတာတွေကို ပြန်တွေးနေမိတယ်။ ပီယဆေး ဆိုတာ တကယ်ရှိတာကိုး။ ဒီဆေးရရင် ပြောတိုင်းအောင်ဆိုပဲ။ ပြီးပြီပေါ့ဗျာ တာတေတစ်ယောက် သူဌေးဖြစ်ပြီပေါ့ဗျာ၊ ကျုပ် မျက်စိထဲမှာ အခုကိုမြင်နေပြီဗျ။ ကျုပ်က အင်္ကျီအကောင်းစား ပုဆိုးအကောင်းတွေနဲ့၊ ကျုပ်ပိုင်တဲ့ ပွဲရုံကြီးရှေ့က မော်တော်ကားတစ်စီးဘေးမှာ ရပ်လို့ဗျ။ ပွဲရုံနာမည်ကလည်း ဘာတဲ့ "တာတေ ပဲ၊ နှမ်း ရောင်းဝယ်ရေး" တဲ့ဗျ။ ကျုပ် အလုပ်သမားတွေကလည်း ပဲအိတ်၊ နှမ်းအိတ်တွေ ထမ်းလို့ပေါ့ဗျာ။

"ဟဲ့... တာတေ ငုတ်တုတ်ကြီးထိုင်ပြီး ပြုံးပြုံးကြီးတော့ ဘာတွေများ သဘောကျနေတာတုံးဟဲ့ လာလေ ထမင်းစားရအောင်"

အမေ့အော်သံ ကြားလိုက်တော့မှ ကျုပ်လည်း လန့်ပြီး အတွေးတွေ ရပ်သွားတာပေါ့ဗျာ။

နဂါး ဆေးပေါ့လိပ်ကလေးတစ်လိပ် ဖွာရင်း ပေါက်တူးကို မန်ကျည်းပင်အရင်းမှာ ထောင်ထားလိုက်တယ်။ သုံးတောင့်ထိုး ဓာတ်မီးကိုလည်း မသိမသာ ကျုပ်ယူထားလိုက်တယ်။

+ + +

မိုးစုံးစုံးချုပ်ပြီဆိုတော့မှ ဓာတ်မီးလေး ခါးမှာထိုးပြီး ပေါက်တူးကို ပခုံးမှာထမ်းပြီး ကျုပ်ထွက်လာခဲ့တယ်။ လကွယ်ညဗျ ကြယ်ရောင်ကလေးလောက်ပဲ ရှိတာ။ ဒါပေမဲ့ ဒီလမ်းတွေက ကျုပ်အဖို့တော့ ကြိုက်တဲ့အချိန် ထသွားနေကြလမ်းတွေပါဗျာ။ ငွေတွင်းကုန်းသုသာန်ကို ရောက်ဖို့ဆိုရင် ဘန့်ဘွေးကုန်းဘက်ကို အရင်သွားရမယ်။ ပြီးတော့ ဘန့်ဘွေးကုန်း တောင်ဘက်က ညောင်ကြပ်ပင်ကြီးရောက်ရင် အနောက်ဘက်ကို ချိုးချလိုက်ရုံပဲလေ။ စုစုပေါင်း နှစ်နာရီလောက်တော့ သွားရမယ် ထင်တယ်။

ကျုပ်လည်း ပေါက်တူးတစ်လက် ထမ်းပြီး သုတ်ချေတင်ရတော့တာပေါ့ဗျာ။ တစ်ချက်တစ်ချက်တော့ ကျောထဲက စိမ့်သွားသွားဗျ။ ပီယဆေးလိုချင်တဲ့ဇောက ကပ်နေတော့ သိပ်မကြောက်ရှုဘူးပေါ့လေ။

ဘန့်ဘွေးကုန်း တောင်ဘက်က ညောင်ကြပ်ပင်ကြီးအောက်ရောက်တော့ သစ်ပင်ကြီးပေါ်က ဇီးကွက်တစ်ကောင်လား မသိဘူး

ဘူးဗျာ ထအော်လိုက်တာ ကြက်သီး ဘွဲ ဖြန်းခနဲ ထသွားလိုက်တာ စိတ်ထဲက နည်းနည်းကြောက်လာလိုက် ပီယဆေးအကြောင်းတွေး လိုက်နဲ့ အနောက်ဘက်ကို ချိုးလိုက်တယ်။ ငွေတွင်းကုန်း သုသာန် နှိတဲ့ဘက်ပေါ့ဗျာ။ ကိုပေသီးကြီး ရောက်နေလောက်ပြီ ထင်ပါရဲ့။

ငွေတွင်းကုန်းသုသာန်အဝ ရောက်တော့ သံစိပင်အုပ်အုပ်ကြီး တွေနဲ့ တောင်တော်ကို မှောင်ရိပ်ကြီးကျနေတာဗျ။

"ရှူး... ရှူး... ရှူး... ရှူး..."

ရုတ်တရက်ကြီး ခွေးအူသံကို ကြားလိုက်ရတော့ ကျုပ် ဆံပင် တွေတောင် ထောင်သွားသလားလို့တောင် ထင်လိုက်ရတယ်။ ကျုပ် လည်း ခါးကြားက ဓာတ်မီးကလေးထုတ်ပြီး ထိုးရတော့တာပေါ့ဗျာ။ မြွေပါးကင်းပါးက ရှိသေးတယ်မို့လား။ ဓာတ်မီးနဲ့ ဟိုထိုးဒီထိုး လုပ် ပြီး သုသာန်ဇရပ်ကို ရှာရတာပေါ့။ ကိုပေသီး ရောက်နေရင်လည်း ကျုပ်လာတာကို တွေ့အောင်ပေါ့ဗျာ။ မီးထိုးပြီး ဇရပ်ကို ရှာရတာ လေ။ ဟောတွေ့ပြီ၊ ကုက္ကိုပြင် အုပ်အုပ်ကြီးတွေအောက်မှာ ဇရပ် ကလေး။

ကျုပ် ဇရပ်ပေါ်ရောက်တော့ ကိုပေသီးကို ရှာလိုက်တယ်။ မတွေ့ဘူးဗျ။

"ရှူး... ရှူး... ရှူး... ရှူး..."

ခွေးအူသံကြီး ရုတ်တရက် ထွက်လာပြန်တော့ ကျုပ်ဖြင့် လန့် သွားလိုက်တာဗျာ မပြောပါနဲ့တော့။ မဟုတ်သေးပါဘူး။ ကိုပေသီး က ကြိုပြီးရောက်နေရမှာပါ။ ဘယ်လိုဖြစ်လို့ နောက်ကျနေပါလိမ့်။

"ဖျောက်"

ရေပ်နောက်ဘက်က သစ်ကိုင်းချောက် တက်နင်းသံ ကြား လိုက်ရလို့ ကျုပ် ချက်ချင်း လှမ်းကြည့်လိုက်မိတာပေါ့။ ခြောက် ကိုပေသီးက ရောက်နေတာကိုး။ ရေပ်ပေါ်တက်လာတဲ့ ကိုပေသီးကို ကျုပ်က

"ကိုပေသီး မရောက်သေးဘူးမှတ်လို့ဗျ"

"ငါရောက်နေတာ ကြာပါပြီကွ။ တနင်္ဂနွေသမီးကို ထားတဲ့ သချိုင်းကို သေချာအောင် သွားကြည့်တာပါ။ တို့ သိပ်ဝေးရမှာ မဟုတ်ပါဘူး။ မြှုပ်တဲ့သူတွေက ခပ်ဖွဖွပဲ ဖို့ခဲ့တာကွ"

ကိုပေသီးက ဆေးပေါ့လိပ်ကို မီးညှိပြီး ဖွာနေတယ်။

"ဝူး... ဝူး... ဝူး..."

ဒီတုန်းမှာပဲ ခပ်လှမ်းလှမ်းက ခွေးအူသံကြီး ထွက်လာပြန် တယ်ဗျ။

"ဝူး... ဝူး... ဝူး..."

ဒီတစ်ခါ ခွေးအူသံက ပျောက်မသွားဘဲ ကျုပ်တို့ဘက်ကို လာနေသလိုပဲ။ ကျုပ် ခွေးအူသံကို နားစွင့်နေတုန်းမှာပဲ–

"ကဲ... တာတေ ငါတို့ အလုပ်စလိုက်ကြရအောင်"

ကိုပေသီးက ပြောပြောဆိုဆို ထလိုက်တယ်။ ကျုပ်လည်း ပေါက်တူးကို ဆွဲပြီး ထလိုက်တယ်။

"ငါ ပေါက်တူးက မြေပုံနားမှာ ထားခဲ့တယ်"

ကျုပ်နဲ့ ကိုပေသီး မြေပုံနားကို ရောက်တော့–

"ဒီမြေပုံပဲကွ။ ဒါ တနင်္ဂနွေသမီးရဲ့ မြေပုံလေ"

ကိုပေသီးက မြေပြင်ကို ထိုင်ချလိုက်တယ်။ သူယူလာတဲ့ မီးအိမ်ကလေးကို မှန်ပြောင်းမပြီး မီးထွန်းလိုက်တယ်။ မီးအိမ်ကလေးက သင်္ဘောတွေမှာသုံးတဲ့ လေကာပါတဲ့ မီးအိမ်ကလေးဗျ။

"ကဲ... မင်း ဓာတ်မီးကို ချထားလိုက် တာပေါ့။ လိုမှပဲ ဓာတ်မီး သုံးကွ။ အဝေးက လှမ်းမြင်နိုင်တယ်"

ကျုပ်တို့ နှစ်ယောက်စ စုဆိုးခပ်တိုတို ပြင်ဝတ်လိုက်ကြပြီး မြေပုံကို တူးဖို့ လုပ်ရတာပေါ့ဗျာ။ ဒီမှာတင် ကိုပေသီးက မြေပုံရဲ့ ခေါင်းရင်းက သွားပြီး ရပ်လိုက်တယ်။

"အရှေ့နေထွက်၊ အနောက်နေဝင်၊ တောင်တံငါ့ကွန်၊ မြောက် ရူပ်အတွင်း ကျုပ်ဆရာပေသီး၏ အမိန့်ပြန်တမ်းသည် ပျံ့နှံ့ရောက်ရှိ စေသတည်း။

ကျုပ်ဆရာပေသီးဟာ (၇)နှစ်ရက်သားသမီးတို့ရဲ့ အကျိုးကို လိုလားသောအားဖြင့် ဒီတနင်္ဂနွေသမီးရဲ့ အကူအညီကို ယူလိုပါ တယ်။

ဒီကလေးမရဲ့ ဝိညာဉ်ကို ဟန့်တားထားခြင်း၊ ထိန်းသိမ်းထား ခြင်း၊ လှည့်ဖျားထားခြင်း၊ မရှင်းမရှိစေရ။

တနင်္ဂနွေသမီး သင်သည် ရောက်ရာအရပ်ကနေ အခု ချက်ချင်း ကျုန်ုပ်ထံသို့ အရောက်လာခဲ့ရမည်။ ကျုပ်ဆရာပေသီးရဲ့ အမိန့်-ဖျန်း"

ကိုပေသီးက လက်ထဲမှာ ကိုင်ထားတဲ့ သူ့ရဲ့ဆေးကြိမ်လုံးနဲ့ မြေပုံမို့မို့ကြီးကို ဖျန်းခနဲ မြည်အောင် ရိုက်လိုက်တယ်ဗျ။

"ကဲ တာတေရေ တူးကြစို့ဟေ့"

မီးအိမ်ရဲ့အလင်းရောင်ကလေးနဲ့ ကျုပ်တို့နှစ်ယောက် သချိုင်းကို စပြီး တူးတာပေါ့ဗျာ။ တော်တော်ကလေး တူးမိတော့–

"ဒေါက်"

"ဖြေး–ဖြေး၊ ဖြေး၊ ဖြေး... သေတ္တာကို ထိနေပြီကွ"

ကျုပ်တို့နှစ်ယောက် ချွေးတွေပြန်လာတဲ့အချိန်လောက်မှာပဲ သစ်သားခေါင်းကြီး ပေါ်လာတာဗျ။ ရုတ်တရက် ဆိုး၊ ရုတ်တရက် သဂြိုဟ်ရတာဆိုတော့ ခေါင်းက အကြမ်းထည်ကြီးပေါ့ဗျာ။

"တာတေရေ ခေါင်းကို ဖွင့်မယ်ဟေ့ မင်းနောက်ဆုတ်"

ကျုပ်တို့ နှစ်ယောက်ဖော်ထားတဲ့ သစ်သားခေါင်းကြီးကို ကားရားခွရပ်ပြီး ကိုပေသီးက အသင့်ယူလာတဲ့ သံကလော်နဲ့ ခေါင်းဖုံးကို ဖွင့်တာဗျ။

"အေး ရပြီကွ၊ ဖွင့်ပြီ"

ပြောပြောဆိုဆိုနဲ့ ကိုပေသီးက ခေါင်းဖုံးကြီးကို မပြီး တူးထားတဲ့ မြေကြီးပုံပေါ်ကို တင်လိုက်ထယ်။ မီးရောင်အောက်မှာ ကျုပ်မြင်လိုက်ရတာက တစ်ကိုယ်လုံး မည်းပြာနေတဲ့ ကလေးမလေးရဲ့ အလောင်းဗျ။ မအေးအေးဝင်းတဲ့ သနားပါတယ်ဗျာ။ ခမျာ အရွယ်ကောင်းကလေးရောက်မှ သေရတာ။ ကိုပေသီးကတော့ သူ့လွယ်အိတ်ကြီးကိုယူပြီး အထဲက ကျောက်ပျဉ်ကလေးကို ထုတ်တယ်။ ပြီးတော့ သနပ်ခါးတုံးတစ်တုံး၊ ရေထည့်ထားတဲ့ မုလင်းတစ်လုံး အလောင်းရဲ့ရင်ဘတ်ပေါ်ကို ကျောက်ပျဉ်တင်တယ်။ ကျောက်ပျဉ်

ပေါ်မှာ သနပ်ခါးတုံးကလေး တင်ထားတယ်။ ရေပုံလင့်ကလည်း ဘေးမှာ ထောင်လို့ဗျ။

"ဆွန်ဂ်နွေ့သမီး အေးအေးဝင်းဆရာခေါ်တယ်။ အခုချက်ချင်း အရောက်လာ ဘယ်သူမှ မဟန့်တားစေရ။ ငါဆရာ အမိန့်"

ကျုပ်လည်း မျက်လုံးကို ပြူးနေအောင် ကြည့်တာပေါ့ဗျာ။ ဘာမှတော့ မထူးခြားဘူးဗျ။ အခြေအနေကလည်း ငြိမ်နေတာပါပဲဗျာ။

"တနင်္ဂနွေသမီး ငါဆရာပေးသီး အမိန့် အခုချက်ချင်းလာခဲ့ ဒီကိုယ်ထဲကို ပြန်ဝင်လိုက် အခု ပြန်ဝင်လိုက်"

အနောက်ဘက်က လေအေးကလေး တစ်ချက် ဝှေ့တိုက်သွားတယ်။ တစ်ကိုယ်လုံး စိမ့်ခနဲ ဖြစ်သွားတာကို ကျုပ် သတိထားမိလိုက်တယ်။

"ရူး... ရူး... ရူး... ရူး..."

ဆွဲဆွဲငင်ငင် အူလိုက်တဲ့ ခွေးအူသံကြီး တစ်သံ ထွက်လာပြန်တယ်။

"ဖြန်း... ဖြန်း... ဖြန်း... ဖြန်း"

ဇရပ်ခေါင်မိုးပေါ်က ငှက်တစ်ကောင် ထပြန်သွားတဲ့အသံကို ကြားနေရတယ်။ ခွေးအူသံက မရပ်တော့ဘူးဗျ။ ဆက်တိုက်ကို ထွက်နေတော့တယ်။

"ဖြန်း... ဖြန်း... ဖြန်း... ဖြန်း"

အနားက သစ်ပင်တွေပေါ်မှာ အိပ်တန်းတက်နေတဲ့ ဗျိုင်းတွေတောင် ထပြန်ကုန်တယ်ဗျ။ တစ်ခုခုပဲ ဆိုတာတော့ ကျုပ်တွေးမိ

တယ်။ မီးရှောင်ဖျော့ဖျော့ကလေးအောက်မှာ တစ်ကိုယ်လုံး မဲပြာနေတဲ့ လူသေအလောင်းကြီးဗျ။ ပြီးတော့ မြေကျင်းဘေးမှာ ထိုင်ပြီး တတွတ်တွတ်နဲ့ အမိန့်ပေးနေတဲ့ ဆရာကိုပေသီး၊ သရျိုင်းတပြင်လုံး ဟိန်းထွက်နေတဲ့ ချွေးအူသံကြီး၊ တဖြုန်းဖြုန်း ထပျံနေတဲ့ ငှက်တွေရဲ့ အသံ။ တော်တော်ကို ချောက်ချားစရာကြီးပါဗျာ။ ကျုပ်ဖြင့် ကြက်သီးတွေ တဖြန်းဖြန်း ထနေတာပေါ့ဗျာ။

"ဟာ"

ဒီတုန်းမှာပဲ ကျုပ် လုံးဝ ထင်မထားတာတစ်ခု ဖြစ်သွားတယ်ဗျ။ ကျုပ်ဆိုတာ တစ်ကိုယ်လုံး ဆတ်ခနဲ တုန်သွားတာပဲဗျို့။ ဘာဖြစ်သဲသိလား။ အလောင်းကြီးက မျက်စိတွေ ဖျတ်ခနဲ ပွင့်လာတာဗျ။ ဟုတ်ရဲ့လားလို့ ကျုပ် သေသေချာချာကြည့်တယ်။ ဟုတ်ပဗျာ၊ မျက်လုံးကြီးတွေ ပြူးနေတာပဲဗျို့။

"အေး ဟုတ်ပြီ တနင်္ဂနွေသမီး ရောက်ပြီ။ ဟုတ်ပြီ ငါဆရာ အမိန့် ထ… ထ… ထ ထိုင်လိုက်။ ထထိုင်လိုက် ဆရာ့ကို ကူညီရမယ် ကူညီရမယ် ထ… ထ"

ဟောဗျာ ထပြီဗျို့ ထပြီ အလောင်းက မျက်လုံးပြူးကြီးနဲ့ ထထိုင်နေပြီဗျ။ အောင်မယ်လေး တကယ်ကို ထိုင်တာဗျာ။

"ဟုတ်ပြီ တနင်္ဂနွေသမီး သနုပ်ခါးတုံးကိုင်လိုက် ဟုတ်ပြီ ကိုင်လိုက်… ရေထည့်… ရေထည့်။ ငါဆရာ့ အမိန့် သွေး… သွေး ဟုတ်ပြီ၊ သွေး"

ဟာ သွေးတယ်ဗျို့၊ သွေးတယ်။ ဒါဆိုရင် ပီယဆေးရတော့မှာပေါ့။ ကျုပ် ဝမ်းသာသလို ဖြစ်သွားတယ်ဗျ။

"သွေးသွေး တနင်္ဂနွေသမီး အားကလေးစိုက်ပြီး သွေးကွ။ ရေထည့်ဦးလေ ရေထပ်ထည့်"

ကိုပေသီးက အမိန့်တွေ တတွတ်တွတ်ပေးပြီး အလောင်းကောင်ကို ခိုင်းနေလေရဲ့။ အလောင်းက သနပ်ခါးတော့ သွေးတယ်ဗျ။ သူခိုင်းသလို ရေတော့ ထပ်မထည့်ဘူး။ ကျုပ် သေသေချာချာ ကြည့်တယ်။ သနပ်ခါးတွေ ထွက်နေတယ်ဗျ။

"ရေထည့်ဆို ထည့်လေ"

ကိုပေသီးက အမိန့်သံနဲ့ ခိုင်းတယ်ဗျ။ အလောင်းက ကိုပေသီးကို မျက်လုံးပြူးကြီးနဲ့ မော့ကြည့်တယ်။ အောင်မလေး ကျုပ်ဖြင့် တုန်သွားတာပဲဗျာ။ ကိုပေသီးက အမိန့်ပေးနေပေမဲ့ အလောင်းက ရေမထည့်ဘူးဗျ။ ကျုပ်စိတ်ထဲမှာ အလောင်းက နည်းနည်း ပုံပြောင်းသွားသလိုပဲဗျ။ ကိုပေသီးကို မကျေနပ်သလို ကြည့်နေတယ်။

ကိုပေသီးက သူ့ရဲ့ ဆေးကြိမ်လုံးနဲ့ ရွယ်လိုက်ပြီး ထစ်ခိုင်းတယ်ဗျ။

"ကဲ... အခု ရေထည့်လိုက်စမ်း"

ဒီလိုတော့ ဟုတ်သားဗျ။ အလောင်းက ရေပုလင်းကိုယူ ရေထည့်တယ်ဗျ။ ကိုပေသီးက ပုလင်း ခပ်လတ်လတ် အရွယ်တစ်လုံးကို အဖုံးမှာ အပေါက်ကလေး ဖောက်ထားတာဗျ။ ရေက အနေတော်ပဲ ကျတာ။ သွေးတယ်ဗျို့။ သနပ်ခါးတောင် တော်တော်ထွက်နေပြီဗျ"

"ဟုတ်ပြီ။ သွေး သွေး... ရေထည့်လိုက်ဦး ရေထည့်လိုက်ဦး"

ကိုပေသီးက ရေထည့်နိုင်းတယ်။ ဒါပေမဲ့ အလောင်းက မထည့်ဘူးဗျ။ သနပ်ခါးသွေးတော့ မရပ်ဘူး သွေးနေတယ်။

ကိုပေသီးက ကြိမ်လုံးကို အပေါ်မြှောက်ပြီး အမိန့်ပေးပေမဲ့ ဒီတစ်ခါတော့ မရတော့ဘူးဗျို့။ ကိုပေသီးကလည်း အမိန့်တွေ ပေးတာပဲဗျ။ ဒါပေမဲ့ အလောင်းက သိပ်ပြီးမနာခံသလိုပဲ မျက်လုံးပြူးကြီးနဲ့ကို ပေသီးကို မော့မော့ကြည့်နေတယ်ဗျ။

"ကိုပေသီး သတိလည်း ထားဦးဗျ"

လို့ ကျုပ်က သတိပေးလိုက်မိတယ်။

"စိတ်မပူနဲ့ တာတေ။ ဒါလောက်ကတော့ ပေသီးတို့ မမှုဘူး ကွ။ ဟဲ့ကောင်မ အခုရေထည့်စမ်း ငါ့အမိန့်"

ကိုပေသီး လေသံပြောင်းသွားပြီး ခပ်ကြမ်းကြမ်း ပြောပြီး နိုင်းတယ်။ အလောင်းက သနပ်ခါးသွေးတာကိုတော့ မရပ်ဘူးဗျ။ ရေတော့ ထပ်မထည့်တော့ဘူး။ အလောင်းက ခေါင်းထဲမှာပဲ ရှိနေတာဗျ။ ပက်လက်ကနေ ထထိုင်နေတာ။ ခြေထောက်တွေက ဆင်းထားတဲ့အတိုင်းပေါ့။ သူ့ပေါင်ပေါ်မှာ ကျောက်ပျဉ်တင်ပြီး သွေးနေတယ်လေ။

ကိုပေသီးက စိတ်မရှည်တော့ဘဲ–

"ဒီကောင်မတော့ ငါထသတ်ရင် နောက်တစ်ခါ ထပ်သေဦးမယ်။ နိုင်းရင် နိုင်းတဲ့အတိုင်း မလုပ်ဘူး" လို့ ပြောပြီး ကိုယ်ကို ရှေ့ကုန်းလိုက်တယ်။ ပြီးတော့ အလောင်းဘေးမှာ တုံးလုံးလဲနေတဲ့ ရေပုလင်းလေးကို လှမ်းပြီးကောက်တယ်။

အရှေ့ဘက်ကောင်းတင်

ဒီမှာတင် မမျှော်လင့်တာဖြစ်တော့တာပါပဲဗျာ။ အလောင်းရဲ့ လက်နှစ်ဖက်က လေထဲကို မြောက်တက်လာပြီး ကိုပေသီးရဲ့ ခေါင်းက ဆံပင်ကို ဆတ်ခနဲ ဆွဲချလိုက်တယ်။ ကိုပေသီး အရှိန်လွန်ပြီး ခေါင်းပေါ်ကို ပြုတ်ကျသွားတယ်။ အလောင်းက လက်တစ်ဖက်က ကိုပေသီးရဲ့ဆံပင်ကို ဆွဲထားပြီး လက်တစ်ဖက်က ကျောက်ပျဉ်ကို ကိုင်ပြီး ထုတော့တာပဲဗျာ။

"ခွပ်... ခွပ်... ခွပ်... ခွပ် ဟား... ဟား... ဟား... ဟား ငါဟဲ့ ငါ၊ တန်ဂီနွေသမီးမဟုတ်ဘူး။ ငါ မဖဲဝါဟေ့ နင့်လို ဆရာကများ ငါ့သချိုင်းထဲကိုလာပြီး စွာရတယ်လို့ ခွပ်... ခွပ်... ဟား ဟား... ဟား... ဟား"

"ဟာ မဖဲဝါဆိုပါလား၊ သချိုင်းစောင့်မဖဲဝါဆိုတာ ထင်တယ်"

ကျုပ်တစ်ယောက်ထဲ အတွေးနဲ့ ပြောတဲ့စကားဗျ။ ကိုပေသီးရဲ့ ခေါင်းက သွေးတွေ မြင်မကောင်းအောင် ထွက်လာတာပေါ့ဗျာ။

"တာတေ ပြေးတော့"

ဗုံလုံးဗထွေး အသံကြီးနဲ့ ကြုံးအော်လိုက်တဲ့ ကိုပေသီးရဲ့ စကား လည်း ကြားရော ကျုပ်လည်း ဘာပြောကောင်းမလဲ၊ ပေါက်တူး ကလေးပြေးဆွဲပြီး တစ်ကြိုးတည်း သုတ်တော့တာပေါ့ဗျာ။

"ခွပ်... ခွပ်... ခွပ်... ဟား... ဟား... ဟား မဖဲဝါတဲ့ဟေ့၊ ငါ့ကို စမ်းချင်တဲ့ကောင် ကဲဟာ... ကဲဟာ"

ဆိုတဲ့အသံကြီးက ကျုပ်နောက်ကို ပြေးလိုက်လာသလိုပဲဗျ။ ကျုပ်လည်း မနားတမ်း ပြေးလိုက်တာ ဒါးကြားမှာထိုးထားတဲ့

တတ်မီးလည်း အာယ်နားကျကျန်ခဲ့မှန်းတောင် မသိတော့ပါဘူးဗျာ။ လမ်းမှာလည်း သုံးခါလောက် ချော်လဲသေးတယ်ဗျ။ ဘုန်းခနဲ လဲလိုက် ကုန်းထပြီး ပြေးလိုက်နဲ့ အိမ်ကို ဘယ်လိုရောက်လာမှန်းကို မသိတာပါဗျာ။



နောက်တစ်နေ့ရောက်တော့ ငွေတွင်းကုန်း သုသာန်မှာ အလောင်းဖော်ပြီး ဆေးစီရင်တဲ့ ပရောဂဆရာကိုပေသီး မြေကျင်းထဲမှာ မှောက်စုံကြီး သေနေတဲ့သတင်းက တောမီးလိုပြန့်နေတော့တာပေါ့ဗျာ။ ကျုပ်တို့ ထနောင်းကုန်းမှာလည်း ဒီသတင်းပဲ ပြောနေကြတာဗျို့။ ကိုပေသီးခေါင်းတစ်ခုလုံး ကြေမွပြီး ဦးနှောက်တွေတောင် ထွက်ကျနေတယ် ဆိုပဲ။ ကိုပေသီး ဘယ်လိုဖြစ်ပြီးသေတယ် ဆိုတာကိုတော့ ဘယ်သူမှ အတိအကျ မသိကြဘူးပေါ့။ အလောင်းတာတော့ မြှုပ်ထားတဲ့အတိုင်း မလှုပ်မယှက်ပဲတဲ့ဗျ။ ကျုပ်လည်း သတင်းမျိုးစုံ ကြားရပေမဲ့ ဘာမှမသိသလိုနေရတာပေါ့လေ။

အခုဆိုရင် ကိုပေသီးသေတာ ကြာခဲ့ပါပြီ။ အဲဒီညက ကျုပ်ပါခဲ့တယ်ဆိုတာကို အခုအချိန်အထိ ဘယ်သူမှမသိကြဘူးဗျ။ အဲ... ခင်ဗျားတစ်ယောက်က လွဲရင်ပေါ့လေ။

တာတီး



## ဂူဖောက်သူ

ဆရာကိုပေသီးတစ်ယောက် တာတေ့မျက်စေ့အောက်မှာ တင့်မရှုမလှ ဖြစ်သွားခဲ့ပြီးတဲ့နောက်တော့ တာတေလည်း တော်တော်ကို ငြိမ်သွားခဲ့တယ်။ ထနောင်းကုန်းမှာပဲ ရပ်ရေးရွာရေးလုပ်တယ်။ ရွာဦးက ရွှေတောင်ကုန်းဘုရားပွဲအတွက် ပြဇာတ်တွေတိုက်တယ်။ ဦးရွှေရိုးအက တိုက်ရတယ်။ ဒေါ်မိုးကနေကြ လူဖေက ရန်ကုန်ပြောင်းသွားလို့ ဒေါ်မိုးကမဲ့ မိုးသီးကို အကသင်ပေးကြရတာ ဇာတ်ဇာတ်ကို မောနေတာပါပဲဗျာ။

ထနောင်းကုန်းရွာဦးက ရွှေတောင်ကုန်းဘုရားပွဲဆိုတာ။ နှစ်စဉ် တပေါင်းလပြည့်ကျင်းပနေကြဗျ၊ လွှတ်စည်တဲ့ဘုရားပွဲပါဗျာ။ အနီးအနားက ဘန့်ဘွေးကုန်း၊ ငွေတွင်းကုန်းမချောနဲ့ တိုး ဆယ်မိုင်လောက်ဝေးတဲ့ လက်ပန်လှတို့၊ ဆရာမနိုင်တို့ကတောင် ဦးရွှေရိုး ဒေါ်မိုးအကဝင်ပြိုင်တာဗျ။ တိုးနယားကပြိုင်ပွဲကလည်း လွှတ်လှုကြိုက်များတာဗျ။ ဒုန်းလွှတ်ပွဲလည်းပါတယ်လေ။ နွားလှည်းပြိုင်ပွဲ၊ ခေါင်းအုန်းရိုက်ပွဲ၊ ချောတိုင်တက်ပွဲ လောင်းကစားပွဲတွေကလည်း နား

လည်မှုနဲ့ ခပ်ကြိတ်ကြိတ်ပါသေးသဗျ။ ဒိုးပါတ်ပြိုင်ပွဲနဲ့ အိုးစည်ပြိုင်ပွဲကတော့ ညပိုင်းစင်ပေါ်မှာ လုပ်တာဗျ။ ဘယ်ကမှ ပွဲငှားစရာ မလိုဘူး။ ကျုပ်တို့ဖာသာ စီစဉ်ပြီး ကကြခုန်ကြတာပါပဲဗျာ။

ဘုရားပွဲစခါနီး သုံးရက်လောက်အလိုဆိုရင် ဟိုရောက်ဒီရောက်ရောက်နေတဲ့ ကျုပ်တို့ရွာသားတွေလည်း ရွာမှာ အလျှိုလျှိုပြန်ပေါ်လာတာ ဗျို့။ မတွေ့တာကြာနေတဲ့ ငယ်ပေါင်းကြီးဖော် သူငယ်ချင်းတွေ ပြန်တွေ့ကြရတဲ့ ပွဲပေါ့ဗျာ။ တချို့လည်း မတွေ့တာကြာနေတော့ ပြန် တွေ့တဲ့ အချိန်မှာ ဖက်ပြင်ငိုကြ၊ အလွမ်းသယ်ကြ၊ ညနေစောင်းတော့ ရွာတောင်ဖက်က ထန်းတောထဲ ရောက်သွားကြပေါ့ဗျာ။

အဲဒီနေ့က ကျုပ်လည်း ဘုရားပွဲအတွက် ကျုပ်တာဝန်ယူရမဲ့ကိစ္စတွေပြီးသလောက်ရှိသွားတော့ ဘယ်မှမသွားဘဲ အနားယူလိုက်ဦးမယ်လို့ တွေးပြီး အိမ်ဝိုင်းထဲက မန်ကျည်းပင်ကြီးအောက်မှာပဲ ကွပ်ပျစ်ပေါ် ဖျာကြမ်းခင်း ဝါးပိုးခေါင်းအုန်းပေါ် စောင်ခေါက်ကလေးချ၊ တုံးလုံးလှဲနေတာပေါ့ဗျာ။ လက်မှာတော့လည်း နဂါးဆေးပေါ့လိပ်ကရေးညှပ်လို့ ဖွာလိုက်ချထားလိုက်နဲ့ တစ်ခေါ်းစိမ်ဓာလေးလုပ်မယ်ကြံရုံရှိသေး၊

"အောင်မာ တာတော၊ စည်းစိမ်ရစ်နေတယ်ပေါ့လေ"

ဒီအသံကြားဖူးပါတယ်ဆိုပြီး ခေါင်းထောင်ကြည့်လိုက်တော့ ဝိုင်းပေါက်မှာ မားမားကြီးရပ်နေတဲ့ ကိုဘစိန်ကြီးဗျ။

"ဟာ... ကိုကြီးဘစိန် လာလေဗျာ ခင်ဗျားတော်မှ ရွာမြင်နဲ့မရောက်တာ အတော်ကြာနေမင့်ပဲ"

ခါးကြီးကိုင်းကိုင်းနဲ့ ကိုဘစိန်ကြီး ကျုပ်ဆီကို လျှောက်လာတယ်။ ကိုဘစိန်ကြီးက ကျုပ်ထက် ဆယ်နှစ်လောက်တော့ကြီး သဗျ။ ပိန်ပိန်ရှည်ရှည် ခါးကြီးကိုင်းကိုင်းနဲ့ သစ်သားဖုန်းကလေး တစ်လုံးဆွဲပြီး ဆံပင်လိုက်ညှပ်တဲ့ ခံသ သမားလေ။ ထနောင်းကုန်းတင် မကဘူး။ အနီးအနားရွာတွေမှာပါ ညှပ်ရသားဗျ။ သူကလည်း ကျုပ်လိုပဲ ရှူစုံတစ်ယောက်ဗျို့။ သူနဲ့ မတွဲဖူးတဲ့ သူ သိပ်မရှိဘူး။ အဲ ကျုပ်တို့ ရွာကတော့ သူ့ကို ဆံပင်ညှပ်ခေါ်တာကလွဲရင် သိပ်ပြီး ဆေးဖော်ကြောဖက်မလုပ်ကြဘူးဗျ။

ဘာဖြစ်လို့လဲဆိုတော့ ကိုဘစိန်ကြီးမှာကလည်း လူရှုံ့တဲ့ အကျင့်ဆိုးက ရှိနေတယ်လေဗျာ။ တခြားတော့ မဟုတ်ပါဘူး၊ ဘိန်းစားတာလေ။ ဘိန်းမဲကလေးတွေ မီးချစ်ဆံခေါင်းလောက် လုံးထားတာဗျ။ သစ်သားမီးချစ်ဖုန်းကလေးနဲ့ ထည့်လို့။ ဆီလေးတွေလည်း သုတ်ထားတော့ မဲမဲပြောင်ပြောင်အလုံးလေးတွေဗျ၊ အဲဒီအလုံးကလေးတွေ ထုတ်ထုတ်ပြီး မျိုတာပဲဗျ။

"ငါက ရွာစဉ်လှည့်ပြီး ဆံပင်ညှပ်ရတာဆိုတော့ ငါ့လေးတားမှ အပင်ပန်းခံနိုင်တာကွ ဘိန်းဆိုတာ ဆေးလိုသုံးရင်ဆေးဖြစ်တာပေါ့ကွာ။ တောင်ပေါ်က အထမ်းသမားတွေ သုံးတာကွ။ ဝန်ဆွဲတဲ့ လားတွေကိုတောင် ကျွေးထားရတာ။ သစ်ဆွဲတဲ့ဆင်တွေကိုလည်း ဒါပဲကျွေးရတာကွ။ ဒါပေမဲ့ လူတွေကတော့ ဘိန်းဆိုတာနဲ့ နှာခေါင်းရှုံ့ကြတော့တာပေါ့ကွာ။ ဒါကြောင့်လည်း ငါ့ကို ငါ့ကွယ်ရာမှာ ဘိန်းစား ဘစိန်လို့ ခေါ်ကြတာပေါ့။ ငါ ဆံပင်ညှပ်ကောင်းလို့သာ ငါ့ကို

ခေါ်ကြတာကွဲ့။ နို့မို့ဆိုရင် ငါ့ကိုစကားတောင်ပြောကြမှာ မဟုတ်ဘူး တာတော့ရဲ့"

ကိုဘစိန်ကြီးက ခါးကြီးကိုင်းကိုင်းနဲ့ ဝင်လာပြီး ကျုပ်ဘေးမှာ ဝင်ထိုင်လိုက်ရောဗျ။

"စိမ့်လုပ်တာမဟုတ်ပါဘူးဗျာ။ တစ်လလောက်ရှိပြီဗျ၊ ဘုရားပွဲအတွက် လုံးပန်းနေရတာ ကိုကြီးဘစိန်ရဲ့ အနုမှပဲ အားလုံးပုံစံကြသွားလို့ စိတ်လျှော့လိုက်တော့မှ လူလည်း ခြေကုန်လက်ပမ်းကြသွားတာဗျို့၊ ဒီနေ့တော့ ဘယ်မှမသွားဘဲ နားမလို့ တွေးပြီး လဲနေရတာဗျ"

"အော် ဒီလိုလား၊ အေးအေးနားပါကွာ။ ငါကလည်း မင်းကို မတွေ့တာကြာလို့ လာတွေ့တာပါ။ မင်းနဲ့တိုင်ပင်စရာ ကလေး လည်း ရှိလို့"

ဘိန်းစားဘစိန်လို့ခေါ်တဲ့ ကိုကြီးဘစိန်က စကားကို ခပ်လေးလေးကြီး ပြောပြီး မန်ကျည်းပင်ကြီးကို မော့ကြည့်နေတယ်ဗျ။ ကျုပ် ကလည်း ကွပ်ပျစ်ပေါ်မှာ ချထားတဲ့ နဂါးဆေးပေါ့လိပ် တစ်လိပ်ကို ယူပြီး ဘိန်းစားဘစိန်ကို ပေးလိုက်တယ်။

"ရော့... ဖွာဦးဗျ။ ဖက်ကြမ်းကလေးဘာလေး... အော် ဒါနဲ့ ကိုကြီးဘစိန် ဟိုဟာလုပ်သေးလား"

"ဘာလဲ ဘိန်းလား"

"အေးလေ"

"ဟာ တာတေကလည်း လုပ်တာပေါ့ကွာ မင်းကို ငါ ပြောပြမှာ ပါတယ်။ ဒါက ငါ့အတွက် ဆေးပါလို့"

"ဟုတ်ပါတယ်ဗျ၊ ဒါထက် ခွင့်ဗျား မြို့ပြောင်းသွားတာကြာပြီ ဆိုတော့ ဟိုမှာရော ဒါတွေက ဝယ်ရတာလွယ်ရဲ့လား"

"ဟာ တာတေကလည်း မြို့ပါဆိုနေမှ ကြိုက်တာဝယ်လို့ ရတာပေါ့ကွ"

"မဟုတ်ဘူးလေ ကိုကြီးဘစိန်ရဲ့၊ ဟိုမှာက ရဲတွေ၊ စစ်တပ် တွေ၊ ထောက်လှမ်းရေးတွေက ရှုပါမှပေါ့သနဲ့၊ ဒါတွေ လွယ်ရဲ့လား လို့"

"အေး..း. မင်းပြောတာတော့ ဟုတ်တယ်ကွ။ နာမည်မထွက်အောင်တော့ နေရတာပေါ့ကွ။ ဒီမှာလိုသာ ဘိန်းစားဘစိန်လို့ လူတကာသိနေရင်တော့ အဖမ်းခံရတာ ကြာပြီပေါ့ကွာ။ မြို့ဆိုတော့ လူတွေက အများသားလားကွ၊ သူ့ငါမသိ၊ ငါသူမသိနဲ့တွချည်းဘဲ ဆိုတော့ လွတ်လပ်မှုတော့ ရှိတာပေါ့ကွာ။ သိုသိုသိပ်သိပ်တော့ ရှိ ရတာပေါ့ကွ"

"အေး ကျုပ်ပြောတာ အဲဒါဗျ သတိတော့ထားနော် ကိုကြီး ဘစိန်"

"စိတ်ချပါတာဗျော။ ဒါထက် ဘန့်ဘွေးကုန်းက ပေသီး သံတင်း ငါကြားတယ်ကွ။ ဟိုတစ်လောက ငွေတွင်းကုန်းက ငထွန်း တို့ ညီအကို မြို့လာလို့ သူတို့ပြောမှ ငါသိတာ"

"မပြောတတ်ပါဘူးဗျာ၊ လူတွေပြောမှပဲ ကျုပ်လည်း သိတာဗျ"

"ဒါထက် သူ့ကို သင်္ဂြိုဟ်တော့ ဘန့်ဘွေးကုန်းမှာလား ငွေတွင်း ကုန်းမှာလားကွ"

"ဒါက လူသတ်မှုလို ဖြစ်နေတော့ စခန်းက အလောင်းကိုယူ ပြီး မြို့ကဆေးရုံပို့ပြီး စစ်ဆေးခံရတာပေါ့ဗျ၊ အဲဒီက ပြန်သယ်လာ

တော့ ဘန့်ဘွေးကုန်းကိုဝဲ သယ်လာပြီး သူ့အိမ်ကပဲ သဂြိုဟ်တာ ပေါ့"

"မင်းနဲ့လည်း အတော်ခင်တာပဲ။ မင်းလိုက်ပို့လိုက်မှာပေါ့"

"ဟာ မပို့ဖြစ်ဘူးဗျ၊ ကျုပ်ကလည်း အဲဒီရက်မှာ ဖျားနေတာဗျို့၊ အိပ်ယာထဲမှာ တစ်ပတ်လောက်ကို လဲနေတာ ဆေးထိုးဆရာတောင် ခေါ်ပြီး ဆေးထိုးလိုက်ရသေးတာဗျ"

"အော်"

ကျုပ်ပြောတာတကယ်ဗျ၊ ကိုပေသီးနဲ့ လိုက်သွားပြီး အိမ်ပြန် ရောက်တော့ နောက်တစ်နေ့မှာ ကျုပ် အပြင်းဖျားရော တစ်ပါတ် လောက်ကိုကြာတယ်။ လန့်ဖျားခေါ်မလားဗျာ၊ ဒါနဲ့ ဆရာကိုပေသီး အသုဘကို ကျုပ်သွားမပို့နိုင်ခဲ့ဘူးဗျ။

"ဒါနဲ့ ကိုကြီးဘစိန် စောစောက ပြောတဲ့ တိုင်ပင်စရာဆိုတာ ဘာများတုံးဗျ"

"အော် ဖြေးဖြေးပေါ့ကွာ၊ မင်းလည်းနားချင်တယ် ဆိုရင် နားပါ ဦး"

"ဟာဗျာ ကိုကြီးဘစိန်ကလည်း ခင်ဗျားက ပြောမယ်သူ ကျုပ် က နားထောင်ရမဲ့သူ ဘာပင်ပန်းစရာရှိလို့လဲ ကဲပြော"

"အေးအေး ဒါဆိုလည်း ပြောတာပေါ့ကွာ။ အော် ဒါထက် မင်း အမေ အရီးလေးငွေစိန်နဲ့ အဘတို့ရောနေမြင်ပါလားကွ။

"မရှိကြဘူးဗျ၊ သူတို့ကလည်း ဆွမ်းတော်ကြီးအဖွဲ့ လေမျှား၊ ချက်ဖို့ပြုတ်ဖို့တွေ စလုပ်နေပြီပေါ့"

"အေး ဒါဆိုရင်တော့ ဟန်ကြသပေါ့ကွာ။ လွတ်လွတ်လပ်လပ် ပြောလို့ရတာပေါ့"

"ကိုကြီးဘစိန်ပြောမဲ့ ကိစ္စက ဘာမှများတုံးဗျ"

"ဒီလိုကွ တာတေရ မင်းအကြောင်းကို ငါက ဟိုထဲက သိပြီးသွားလေ မင်းက အင်မတန်စိတ်ဓာတ်မာတဲ့ကောင်။ ပြီးတော့ စွန့်စွန့်စားစားလုပ်ရတာလည်း အားကြီးဝါသနာပါတာမို့လား၊ ဒါကြောင့် အခုကိစ္စမှာ မင်းနဲ့တွဲမှဖြစ်မှာကွ"

"အလို ဘာကိစ္စများတုံး ကိုကြီးဘစိန်ရဲ့"

"မင်းကြားဖူးမလားတော့ မသိဘူး တာတေရ၊ ဟိုဘက်ရွာ ဘန့်ဘွေးကုန်းမှာနေသွားတဲ့ တရုတ်ကြီးဟုတ်စိန်လေ"

"ဟာ ကြားဖူးတာပေါ့ဗျ၊ ရွှေသွားဟုတ်စိန်ဆိုတဲ့ တရုတ်ကြီးမို့လား"

"အေးအေး ဟုတ်တယ် သူ့မိန်းမက ဒေါ်ကျင်ဖော့တဲ့"

"အဲ ဒါတော့ မသိဘူးဗျ၊ ရွှေသွားဟုတ်စိန်ဆိုတာတော့ ကျုပ်ကြားဖူးတယ်။ ကျုပ်တို့ မမွေးခင်ကတည်းက သေသွားတဲ့လူတွေမို့လား ကိုကြီးဘစိန်ရဲ့ သူတို့အကြောင်းတော့ သေသေချာချာ မသိဘူးပေါ့ဗျ"

"အေး ဟုတ်တာပေါ့ကွာ၊ ကဲ ကဲ ငါပြောပြမယ်။ အဲဒီဟုတ်စိန်ဆိုတဲ့ တရုတ်က ပြည်ကြီးပေါက် တရုတ်အစစ်ကြီးတဲ့ကွ။ ငါလည်း မမီလိုက်ပါဘူး။ သူများပြောတာပါ။ သူ့မိန်းမ မကျင်ဖော့ကတော့ ဒီမှာမွေးတဲ့ တရုတ်မကြီးတဲ့ကွ။ ဘန့်ဘွေးကုန်းမှာ နေမည်

ကြီး တရုတ်ဆိုင်ကြီးလေကွာ၊ ဒါတို့ထနောင်ကုန်းတို့ ငွေတွင်းကုန်းတို့ဆိုတာ တော်ရုံနဲ့ မြို့ဘက်ဈေးဝယ်နိုင်တာမှ မဟုတ်တာ။ ဘန့်ဘွေးကုန်းကိုပဲ ဈေးဝယ်သွားရတာ ပြီးတော့ ရွှေသွားဟုတ်စိန်ဆိုတဲ့ တရုတ်ကြီးက အပေါင်အနှံလည်းခံတယ်ကွ။ ပဲပေါ် နှမ်းပေါ်လည်း ပေးတယ်ဆိုတော့ ဒီအနီးအနားက ရွာသားတွေက အဆင်ပြေတာပေါ့ကွာ"

"ဟာ ဒီတရုတ်လင်မယားကတော့ တော်တော်ကို ချမ်းသာမှာနော်"

"ချမ်းသာတာပေါ့ကွ။ သူတို့မှာ သားတစ်ယောက်ပဲ ရှိတာ ကျင်စိန်းတဲ့။ ဒီလူကို ရန်ကုန်မှာထားတာ ရွာကို တစ်ခါတစ်လေမှ လာတာကွ နောက်တော့လည်း ပြန်ပြောင်းသွားတယ်ဆိုလားပဲ"

"ဒါဆို အသက်ကြီးလာတော့ ခက်မှာပေါ့ဗျ"

"အေး အဲဒါပြောမလို့ကွ။ ရွှေသွားဟုတ်စိန်ကြီး သေတော့ တရုတ်ရိုးရာအတိုင်း အကြီးအကျယ်ကို အသုဘအခမ်းအနား လုပ်တာတဲ့ကွ။ မြို့ကအုံကျောင်းက လူတွေဆင်းလာပြီး လုပ်ပေးကြတာတဲ့ကွ။ ဘန့်ဘွေးကုန်းသုသာန်မှာ အုတ်ဂူကြီး အကြီးကြီးလုပ်ထားတာ မင်းလည်းမြင်သားပဲ။ အေး တစ်နှစ်လောက်ကြာတော့ တရုတ်မကြီး ခေါ်ကျင်မေါ်ကြ၊ သိပ်မမာတော့ဘူးကွာ၊ အဲဒီမှာ မြို့က အုံကျောင်းက လူကြီးတွေလာခေါ်သွားကြတယ်။ သူတို့နေတဲ့ အိမ်ကြီးကိုလည်း ဘန့်ဘွေးကုန်းက ဦးတက်ခါးတို့က ဈေးနှပါပေါ်နဲ့ ဝယ်ယူ လိုက်ကြတာတဲ့ကွ"

"အော် ဒါနဲ့နေပါဦး ကိုကြီးဘစိန်ရဲ့၊ ကျွန်တော့်ကိုပြောမှာ ဒီတရုတ်လင်မယားရဲ့ ဇာတ်လမ်းလား"

"ဟာ မဟုတ်ရပါဘူးကွာ မင်းကလည်း အေးအေးနားထောင်စမ်းပါ လာမှာပေါ့"

"ကဲ ကဲ ပြောပါတော့ဗျာ"

"တရုတ်ကြီးက ပိုက်ဆံချမ်းသာတော့ ပါးစပ်ထဲလည်း ရွှေသွားတွေ ဆယ်ချောင်းလောက် စိုက်ထားတာတဲ့ တာတေရေ"

"အင်း ဟုတ်မှာပေါ့ဗျာ ကျုပ်အဘပြောဖူးတယ်ဗျ။ ရှေးခေတ်က တရုတ်ကြီးတွေက ပိုက်ဆံရှိလာရင် ရွှေသွားစိုက်တယ် ဘိန်းရှူတယ် ဆိုပဲဗျ"

"အေးကွ ဒီတရုတ်ကြီးသေတော့ တရုတ်မကြီး ဒေါ်ကျင်ဖေါ်က သူတို့တရုတ်ထုံးစံအတိုင်း နောက်ဘဝမှာ မဆင်းရဲအောင်ဆိုပြီးတော့ တရုတ်ကြီးကို ခေါင်းသွင်းကာနီးမှာ ကျောက်စိမ်းလက်စွပ်ကြီး ဝိဇ္ဇာတော်ဝတ်မေးလိုက်သတဲ့ဗျား အဲဒီကျောက်စိမ်းလက်စွပ်ကြီးက အခုဆိုရင် ဘယ်လောက်တန်မယ်လို့ မင်း ထင်လဲ"

"ဟာ မသိဘူးလေဗျာ ကိုကြီး ဘစိန်ကလည်း"

"အေး အနည်းဆုံး ဆယ်သိန်းလောက်တန်မယ် တဲ့ဗျား"

"နေပါဦး ကိုကြီးဘစိန်ရဲ့ ခင်ဗျားက သေချာလို့ချည်လား"

"အော် တာတေရယ် သေချာဆို ငါ့ကိုပြောပြတဲ့သူကဲ့ အရီးပုမလေကွာ"

"ဘန့်ဘွေးကုန်းက အေးကြည်မအမေလား"

"အေးလေ အဲဒီတုံးက အရီးပုမက ဒေါ်ကျင်ဖေါ်ကြီးနဲ့ အားကြီးခင်ဆိုပဲ။ ဦးဟုတ်စိန်ကြီးသေတော့ ဒေါ်ကျင်ဖေါ်နဲ့ သွားနေပေးရတာ

ဆိုပဲ" ခေါင်းသွင်းခါနီးမှာ ညဘက်ကြီးလူတွေအိပ်မှ အရိုးပုမကို နှိုးပြီး ရွှေသွားဟုတ်စိန်ကြီးရဲ့ အလောင်းမှာ ကြောက်စိမ်းလက်စွပ်ကြီး ဝတ်ပေးသိုက်တာတဲ့ကွ။ အရိုးပုမကို နိုင်းလို့ အဲဒီလက်စွပ်ကြီးကို ကိုင်ပေးထားရတာတဲ့ကွ။ နောက်တစ်နေ့ ခေါင်းသွင်းတော့ ပါသွား တာပေါ့ကွ။

"ဒါကို ကိုကြီးဘစိန်ဘယ်လိုလုပ်က သိတာလဲ"

"မနှစ်က အရိုးပုမမြို့ကို ဆေးရုံလာတက်တော့၊ ငါ သွားစောင့် ပေးရတယ်လေကွာ၊ အဲဒီမှာတင် ငါ့ကိုအရိုးပုမက ရှေးဟောင်းနှောင်း ဖြစ်တွေ့ပြန်ပြောပြတော့ ဒီအကြောင်းတွေပါလာတာကွ"

"အေးဗျ အရိုးပုမဆုံးသွားတာ လေး၊ ငါးလတောင် ရှိရော မယ်"

"အဲဒီကိစ္စမင်းကို ငါတိုင်ပင်ချင်တာကွ"

"ဗျာ ဘယ်လိုဗျ ကိုကြီးဘစိန်"

"ငါ အဲဒီရွှေသွားဟုတ်စိတ်ဂူကို ဖောက်ချင်တယ်ကွ"

"ဗျာ"

"မဗျာနဲ့ တာတော့ နည်းနည်းနောနောတန်တဲ့ ရတနာမဟုတ် ဘူးကွ၊ အလဟာသဖြစ်နေမဲ့အတူတူ တစ်ယောက်ယောက်ရတော့ မကောင်းဘူးလားကွ"

"ဟာ ဂူဖောက်တာရာဇဝတ်မှုနော် ကိုကြီးဘစိန်"

"ငါသိပါတယ်ကွာ။ လူဆိုတာ စွန့်စားသင့်ရင် စွန့်စားရမှာ ပေါ့ကွ။ ငါမနက်ကပဲ အဲဒီဂူကို သွားကြည့်ပြီးပြီကွ အနှစ်ငါးဆယ်

ယောက်ရှိပြီဆိုတော့ တော်တော်ကိုခွေးနေပါပြီကွာ ဖောက်ဖို့ မခက်တော့ပါဘူး"

"ဟာ ခင်ဗျားက သွားတောင်ကြည့်ပြီးပြီ ဟုတ်လား"

"အေး ငါကြည့်ပြီးပြီ တာတေ။ ဖောက်ဖို့အကောင်းဆုံးက ဘုရားပွဲညဗျကွ။ မင်းသိတဲ့အတိုင်းတို့ရွာသားတွေရော၊ ဘန်တွေး ကုန်းသားတွေပါ တစ်ယောက်မကျန် ပွဲကြည့်ကြမဲ့ ညလေကွာ။ လူမပြောနဲ့ ခွေးတွေတောင် ဘုရားပွဲနားရောက်နေတဲ့ အချိန်မို့လား၊ ပြီးတော့ ဆိုင်းသံ၊ ဗုံသံတွေနဲ့ ဆူညံနေတဲ့ အချိန်ဆိုတော့ ဂူဖောက်ဖို့အကောင်းဆုံးအချိန်ကွ"

"အင်း ခင်ဗျား အခါရွေးတာတော့ တော်တော်ဟုတ်တာပဲဗျ၊ ကိုကြီးဘစိန်"

"ဟာ ငါက ဘိန်းစားဘစိန်လေကွာ။ ဘိန်းလေးမူးမူးနဲ့ ငါကိုပဲ တတွေးတွေးလုပ်နေတာ ကြာလှပြီလေကွာ" ကျုပ်ဘိန်းစား ဘစိန် ပြောတာကို ခွေးလိပ်မှာရင်းတွေးကြည့်နေမိတယ်။ မရှင်းတော့ မလွယ်ဘူးဗျ။ ဒါပေမဲ့ ကျောက်စိမ်းလက်စွပ်ကြီးကိုတော့ တော်တော်ကို စိတ်ဝင်စားသွားတာဗျို၊ ဒါမျိုးကြားရရင် ဘယ်သူမဆို စိတ်ဝင်စား ကြမှာပါဗျာ။

"ကဲ၊ ဘယ်လိုလဲ တာတေ"

"ကိုကြီးဘစိန်ရာ တာတေပါဗျာ"

"အေးကြိုက်ပြီပေါ့၊ ငါသိပြီးသားပါကွာ။ မင်းလိုလူက ဒီလို စွန့်စားရမဲ့ ကိစ္စကိုလက်လွှတ်မှာ မဟုတ်ပါဘူး"

"ဒါပေမဲ့ ကိုကြီးဘစိန် ခင်ဗျားသိတဲ့အတိုင်း ဘုရားပွဲရက်ဆို တော့ ရွာကလူတွေလည်း ပြန်ရောက်နေကြတာ တခြားရွာက လူတွေလည်း ရောက်နေကြတာဆိုတော့ ရွာမှာ လူတွေပြည့်နေပြီဗျ၊ တော်တော်တော့ သေသေသပ်သပ် လုပ်မှရမယ်"

"ဟုတ်တာပေါ့ကွ။ အဲဒီတော့ မင်းနဲ့ငါလည်း ထပ်မတွေ့ တော့ဘူး။ မင်းသဘောတူပြီဆိုတော့ ဘာမှထပ်ပြောစရာလည်း မရှိတော့ဘူးလေ။ လပြည့်ညမှာ ညဆယ်နာရီအရောက် ဘန့်ဒွေး ကုန်းသုသာန်ကို မင်းအရောက်လာခဲ့ ဟာတော။ ရွှေသွားဟုတ်စိန် ရဲ့ ဂူကိုတော့ မင်းသိတယ်မို့လား"

"ဟာ သိပါသကောဗျာ။ သချိုင်းမြောက်ဘက်၊ ကုက္ကိုလ်ပင် ကြီးတွေအောက်က ဂူကြီးအကြီးကြီးလေ။

"အေးဟုတ်ပြီ လိုတဲ့ပစ္စည်းကိရိယာတွေ ငါအားလုံးယူခဲ့မယ်။ မင်းဘာမှ ယူခဲ့စရာမလိုဘူး။ လူသာရောက်အောင်လာခဲ့ မင်းဝေစု ကတော့ တစ်ဝက်တိတိပဲ"

"ဟာ ရပါတယ်ဗျာ ကျုပ်က စွန့်စွန့်စားစားလုပ်ရရင် ကျေ နပ်နေတဲ့ကောင်ပါဗျာ"

"အေး ကောင်းပြီ ငါသွားမယ်တာတော်"

ပြောပြောဆိုဆိုဘိန်းစားဘစိန်က ခါးကြီးကိုင်းကိုင်း ကိုင်းကိုင်း နှင့် အိမ်ဝိုင်းထဲက ထွက်သွားလေရဲ့။

ကျုပ်မျှော်လင့်နေတဲ့ လပြည့်ညတော့ ရောက်ပြီဗျ။ ကျုပ်တို့ ရွာဘုရားပွဲကလည်း လွတ်ကိုစည်တာဗျို့၊ ကျုပ်စိတ်ထဲမှာ ခိုင်းကိုင်း

ထက်ကို ပိုစည်တယ်လို့ ထင်တယ်ဗျ။ ပွဲခင်းကြီးထဲမှာ ညနေ ထဲကကို လူပြည့်နေတာဗျ။ ဈေးတန်းမှာလည်း တိုးမပေါက်ဘူးဗျ။ ကျုပ်ကတော့ အချိန်တကြည့်ကြည့်နဲ့ ပေါ့ဗျာ။ ကျုပ်ကို လူတိုင်း မြင်အောင်လည်း ဟိုဟာလုပ်သလို၊ ဒီဟာလုပ်သလို လုပ်ပြရသေးတယ်ဗျ

ကိုးနာရီခွဲလောက်ကြတော့ ကျုပ်ပွဲဈေးထဲက ထွက်လာခဲ့တယ်။ ဘန့်ဘွေးကုန်းဘက်ကိုသုတ်ခြေတင်တာပေါ့ဗျာ။ တပေါင်းလပြည့်ည ဆိုတော့ လကလည်း လင်းထိန်အောင်သာနေကိုးဗျ။ သစ်ပင်ရိပ် ကလေးတွေခိုပြီး ခပ်သုတ်သုတ်လျှောက်ခဲ့ရတာပေါ့။ ဘန့်ဘွေးကုန်း သုသာန်ရောက်တော့ပဲ ဆယ်နာရီခွဲပြီဗျ၊ ကျုပ်လည်း ကုက္ကိုလ်ပင် ကြီးတွေ အရိပ်ခိုပြီး မှောင်ရိပ်က ကပ်လျှောက်ရတာပေါ့။ ဘန့်ဘွေး ကုန်းသုသာန်ကြီးက ကျယ်သလောက် ကုက္ကိုလ်ပင်ကြီးတွေနဲ့ မှိုင်းညို့ နေတာဗျ။

ကျုပ်လည်း ဟိုကြည့်သည်ကြည့် နောက်ပြန်ကြည့်ပြီး သုသာန်မြောက်ဘက်ကို ဦးတည်လိုက်တယ်။ အဲဒီမှာက တရုတ်ကြီး ရွှေသွားဟုတ်စိန်ရဲ့ ဂူဟောင်းကြီးရှိတယ်လေဗျာ။

ဟိုရောက်လို့ ဘိန်းစားဘစိန်ကြီးသာ ရောက်မနေရင်တော့ ဒုက္ခပဲ။ ကျုပ်တစ်ယောက်တည်း ထိုင်နေရမှာ သိပ်တော့မလွယ်ဘူးလို့ တွေးလိုက်မိတယ်ဗျ။

"ဟေ့ ကောင်တာတေ ဒီဘက်ကိုလာကွ။ ဒီဘက်က ယာပြင်ပဲ

ရှိတာ ဟိုဘက်က ရှာလမ်းဆိုတော့ လူသူအသွားအလာရှိတယ် တို့က ဒီဘက်ကနေ အလုပ်လုပ်ရမှာကွ။

"တော်ပါသေးရဲ့ဗျာ၊ ကိုကြီးဘစိန်နဲ့မရောက်သေးဘူးလားလို့ တွေးပူနေတာဗျ ကျုပ်က"

"ဟာ ရောက်ပါတယ်ကွ။ ငါကသာ မင်းမလာမှာစိုးရိမ်နေမိတာ။ မင်းကရပ်ရေးရွာရေးကလည်း တစ်ဖက်ကရှိနေတာမို့လား"

"အဲဒါတွေက သူ့ဟာနဲ့သူပုံစံချပြီးသားတွေပါဗျာ"

"အေး ဒါဆိုပြီးတာပေါ့ကွာ။ ကဲ ငါတို့ အလုပ်စကြရအောင်ကွာ။ ပထမဆုံးတော့ ဒီထမင်းထုပ်ကို ပွကြီးပေါ် တင်လိုက်မယ်ကွာ။ မဖဲဝါအတွက် ထမင်းထုပ်လေကွာ။ အမဲသားနဲ့ကွ"

"ဗျာ မဖဲဝါ ဟုတ်လားကိုကြီးဘစိန်"

"အေး ဟုတ်တယ်လေ သချိုင်းမှာလုပ်တဲ့ကိစ္စ သူ့ကျေးဇူးမှ ဖြစ်တာကွ။ ဒီတော့ သူ့ကိုအမဲသားဟင်းနဲ့ ထမင်းအရင်ကျွေးရမှာရတာ ကွ တာတေရ အေး မင်းလည်း ဗဟုသုတရတာပေါ့ကွာ"

ကျုပ် စိတ်ထဲမှာတော့။ မဖဲဝါဆိုတဲ့ နာမည်ကြားရုံနဲ့ ကျောထဲမှာ စိမ့်ခနဲဖြစ်သွားတယ်ဗျို့။ ဒါပေမဲ့ ကျုပ်ဘာမှမပြောပါဘူး ကိုကြီးဘစိန်လုပ်တာကိုပဲ အသာထိုင်ကြည့်နေတာပါ။ ဘေးကယာခင်းပြင်ကြီးထဲမှာ လကထိန်နေတာဗျ။ ကျုပ်တို့ရောက်နေတဲ့နေရာက ကုက္ကိုလ်ပင်အုပ်ကြီးထဲမှာဆိုတော့ မှောင်ရိပ်ကြီးကျနေတာလေ။ အလင်းလေး တစ်ကွက်တလေပဲ ရှိတာ။ ရွှေသွားကြီးရဲ့အငွတ်ဂူကလည်း လူတစ်ရပ် ကျော်ကျော် မြင့်တာဗျ။ ကိုကြီးဘစိန်က ပွကြီးပေါ်ကို ကုတ်ဘက်

သွားတယ်။ ချစ်က ထမင်းထုပ်ကြီး လှမ်းပေးရတယ်။ ငှက်ပျောဖက်နဲ့ ထုတ်ထားတဲ့ ထမင်းထုပ်ကို ဘိန်းစားဘစိန်က ဂူပေါ်မှာ ဖြန့်ချလိုက်တယ်။ အမဲသားဟင်းနံ့က ထောင်းခနဲ့ ထွက်လာတာပေါ့။ အတော်တောင်မွေးသွားဗျ။

"သံချိုင်းစောင့်ကြီးမဖဲဝါ၊ မဖဲဝါဖွားဖွား၊ အမဲသားဟင်းနဲ့ ထမင်းထုပ်ကို၊ ကျုပ်နဲ့ ကျုပ်ညီက ယူလာတာပါ။ မြိန်မြိန်ယှက်ယှက်သာ စားဗျာ။ ပြီးတော့ ကျုပ်တို့အလုပ်လုပ်မှာကိုလည်း မဖဲဝါပဲ စောင့်ရှောက်ပါ။ ဘာအန္တရာယ်မှ မကျရောက်အောင်လည်း ကာကွယ်ပေးပါ မဖဲဝါ"

ဘိန်းစားဘစိန်က ပြောစရာရှိတာပြောပြီး ဂူကြီးပေါ်ကနေ ကုတ်ဖွဲ့ဆင်းလာတယ်ဗျ။ အောက်ရောက်တော့ သူယူလာတဲ့ အိတ်ကြီးထဲကနေ သံစို့ကြီးတွေ၊ သံကာလော်နဲ့ တူကြီးကို ထုတ်တယ်ဗျ၊ တူကတော့ ခြောက်ပေါင်တူကြီးဗျ။

"ကဲ တာတေရေ တို့လုပ်ငန်းစကြစို့ဟေ့၊ ငါဖောက်လို့ လွယ်မဲ့နေရာကို ကြည့်ထားတယ်ကွ၊ ဟောဒီအောက်က အုတ်တွေက အနောက်ဖက်ဆိုတော့ မိုးရေအထိများပြီး ပိုဆွေးနေတာကွ။ အဲဒီဘက်က ဖောက်ရမယ်"

"ဟာ ကိုကြီးဘစိန် သံစို့တွေရဲ့ အနောက်မှာ ပုဆိုးစုတ်တွေ ပတ်ထားပါလားဗျ"

"အေးလေကွာ ဒါမှတူနဲ့ရိုက်ရင် အသံမထွက်မှာပေါ့"

"အော် ဒီလိုလား ကိုကြီးဘစိန်က အလုပ်လုပ်တာ ရော်တော် သေသပ်တာပဲ"

"ဒါပေါ့ တာတောရာ အာဝဲရဲလုပ်လုပ် စနစ်တကျသာလုပ်ကွ။ သတိဆိုတာ ဖိတယ်လို့ ရှိတာမဟုတ်ဘူးကွ"

ပြောပြောဆိုဆို ဘိန်းစားဘစိန်က သူ့ရဲ့ခါးကိုင်းကိုင်းကြီးကို ကုန်းပြီး အုတ်ဂူရဲ့ ဘေးဘက်ကနေစပြီး ဖောက်တော့တာပဲဗျို့၊ ဟုတ် သားဗျ။ တူထုတဲ့ အသံက ခပ်အုပ်အုပ်ပဲ ထွက်လာတယ်"

"ဒုတ် ... ဒုတ် ... ဒုတ် ... ဒုတ်"

ဘိန်းစားဘစိန်က သုံးလေးချက်ဆက်ရိုက်လိုက်၊ အသံရပ်ထား လိုက်၊ ဘေးဘီကအသံကို နားစွင့်လိုက်နဲ့ လုပ်နေတာဗျ။ ကျုပ်က လည်း ပတ်ဝန်းကျင်ကို အကဲခတ်ပေးနေရတာပေါ့ဗျာ။ ခွေးနေတဲ့ ကွန်ကရစ်တွေက ဖွားခနဲ ဖွားခနဲ ပွဲကြတာပေါ့ဗျာ။ ခဏကလေးနဲ့ အထဲက အုတ်တွေပေါ်လာတယ်ဗျ။ ကိုဘစိန်ကြီးက အထဲက အုတ် တွေကို ထပ်ဖောက်တယ်။ သူထင်သလောက်တော့ မလွယ်ဘူးဗျ။ ရှေးခေတ်က အုတ်သရိုးကိုင်တာ တော်တော်ကောင်းတာပဲကို။

ဘိန်းစားဘစိန်ကြီး ချွေးတောင်ပြန်လာပြီဗျို့၊ နောက်တော့မှ အုတ် တစ်လုံးပဲ ထွက်လာတယ်။ အဲဒီထွက်လာတဲ့ အုတ်ကို ကျုပ်က အသာ ကလေးဆွဲထုတ်လိုက်တယ်ဗျ။ ကိုဘစိန်ကြီးက နောက်တစ်လုံးထပ် ဖဲ့ပြန်တယ်။ အုတ်ကလည်းတော်တော်ကောင်းတာဗျ။ မီးကိုတော်တော် ကျက်ထားပုံရတယ်။ ထန်ခနဲ ထန်ခနဲ နေတာပဲ။

ဒါပေမဲ့ တစ်လုံးထွက်သွားပြီဆိုတော့ ပိုပြီးတော့ ဖဲ့ရတာလွယ် လာပါတယ်၊ ဟော နောက်တစ်လုံး။

"ဒုတ် ... ဒုတ် ... ဒုတ် ... ဒုတ်"

ဟော နောက်တစ်လုံးဗျ။ ကိုဘစိန်ကြီးလည်း ချွေးတွေ ပြန်နေပြီ ဗျ။-

"ကိုကြီးဘစိန် ဆေးလေ ကျုပ်တဲလှည့်လုပ်မယ်"

"ဟာ နေပစေ တာတေ ငါလုပ်မယ်၊ အချိန်အဆသိမှ ဖြစ်မှာကွ။ ဝူကြီးကပေါင်းနေတာ မတော်ဖိုကျလို့ ပိသွားပါဦးမယ်ကွာ"

"ရှူး... ရှူး... ရှူး... ရှူး"

ဒီချိန်မှာပဲ သချိုင်းအနောက်ဘက်က ဆွဲဆွဲငင်ငင်အူလိုက်တဲ့။ ခွေးအူသံကြီးကို ကြားလိုက်ရတယ်ဗျ။ ကျုပ်လည်း ခွေးအူသံကြားတဲ့ ဘက်ကို လှည့်ကြည့်လိုက်မိတယ်။ ကိုဘစိန်ကြီးတောင် တူထုတာ ရပ်သွားတယ်ဗျ။ သူလည်း ခွေးအူသံကို နားစွင့်နေပုံရတယ်ဗျ။

"ရှူး... ရှူး... ရှူး... ရှူး"

ကျုပ်စိတ်ထဲတော့ ခွေးအူသံကြီးက တဖြေးဖြေး ရွေ့လာနေသလို ပဲဗျ။ ဘိန်းစားဘစိန်ကြီးကတော့ အုတ်တွေတစ်လုံးပြီး တစ်လုံး ထုတ် တော့တာပါပဲ။ ခဏကြာတော့ ဂူပေါက်ကတော်တော်ကျယ်သွားပြီဗျ။ လူတစ်ယောက် ခပ်ကျယ်ကျယ်တိုးဝင်လို့တော့ရသွားပြီ။

"ဒီလောက်နဲ့မရသေးဘူးကွ။ အရေးအကြောင်းဆို ချက်ချင်းပြန် ထွက်လို့ရမှ ဖြစ်မှာ"

"ဒုတ်... ဒုတ်... ဒုတ်... ဒုတ်"

ဆက်ထုပြန်တယ်။ အုတ်ခဲတွေကလည်း ဘေးမှာပုံလာပြီ။ ကိုဘ စိန်ကလည်း ဂူကိုသေသေသပ်သပ်ကို ဖောက်နေတာဗျို့။

တော်တော်ကြာတော့မှ ကိုဘစိန်က ဂူပေါက်ကြီးကို သေသေချာ ချာကြည့်ပြီး

"ကဲ ဒီလောက်ဆိုရပြီကွဲ။ ဝူကြီးက အကျယ်ကြီးပါလားကွ၊ နေဦး တာတော ငါ့အိတ်ထဲမှာ ဓာတ်မီးပါတယ်ကွ"

ကျုပ်က ဘိန်းစားဘစိန်ရဲ့ အိတ်ကြီးထဲက ဓာတ်မီးနှိုက်ယူလိုက်တယ်ဗျ။ သုံးတောင့်ထိုး ဓာတ်မီးဗျ။

"ရော့ ကိုကြီးဘစိန် ဓာတ်မီး"

"ဟာ အဲဒါမင်းယူထား မင်းက ငါ့ကို မီးထိုးပြရမှာ မီးကို အောက်စိုက်ပြီး ခပ်အုပ်အုပ်ထိုးနော် သေးကိုဖွဲ့ မထိုးမိစေနဲ့။ ဓာတ်မီး အရောင်ဆိုတာ တော်တော်ဝေးဝေးက မြင်ရတာကွ"

"စိတ်ချ၊ စိတ်ချ ကိုကြီးဘစိန်"

"ဟို ပလယာနဲ့ သံကလော် ယူလိုက်၊ ငါ့ကိုပေး"

ကျုပ်ကလည်း သူခိုင်းတဲ့အတိုင်း ပလယာနဲ့ သံကလော်အတို ကလေးကို ယူပေးလိုက်တယ်။

"ကဲ ငါ အရင်ဝင်မယ် ပြီးမှ မင်းဝင်ခဲ့"

ပြောပြောဆိုဆို ဘိန်းစားဘစိန်က ပုဆိုးကို ခါးတောင်းကြိုက် လိုက်တယ်။ ကျုပ်လည်းသူလုပ်သလို လိုက်လုပ်လိုက်တယ်။ ကိုကြီး ဘစိန်က ခါးတောင်းကြိုက်ကြီးနဲ့ အရင်ဝင်လိုက်တယ်။ ကျုပ်က ဓာတ် မီးကို အောက်စိုက်ပြီး ခပ်အုပ်အုပ်ထိုးပေးလိုက်တယ်၊ ပြီးတော့မှ ကျုပ်ပါ အထဲကို ဝင်လိုက်တယ်။ ဂူကြီးက အထဲမှာလည်း တော်တော် မြင့်တာပဲဗျ။ ကျုပ်အရမ်းသဘောကျသွား လွတ်တယ်ဗျ။ သစ်သား ခေါင်းကြီးကတော့ အကောင်းကြီးဗျ။ ကျွန်းသား ခေါင်းကြီးပိုး ကောင်းမှာပေါ့"

ကျုပ်က ခေါင်းကြီးကို မီးထိုးပြထားတယ်။ ဘိန်းစားဘစိန်က ခေါင်းကိုအဖုံးဖွင့်ဖို့ ကြိုးစားတယ်။

"တော်တော်သေသပ်တဲ့လက်ရာကွ။ ဒါတရုတ်လက်သမားတွေ စပ်တဲ့ခေါင်းပဲ"

ဘိန်းစားဘစိန်က သံကလော်ကို တစ်နေရာမှာ စိုက်ချပြီး လက်ဖနောင့်နဲ့ ရိုက်ကြည့်တယ်။

"မရဘူးကွ တာတေ ဂူပြင်ပြန်ထွက်ပြီး တူနဲ့ စို့သွားယူ ဓာတ်မီး ငါ့ကိုပေးခဲ့"

ကျုပ်လည်း ဂူပြင်ပြန်ထွက်လိုက်တယ်"

"ဝူး… ဝူး… ဝူး… ဝူး"

ခွေးအူသံကြီးက ဆွဲဆွဲငင်ငင်ထွက်လာပြန်ပြီ ဒီတစ်ခါ အသံက တောင်တော်ကို နီးနေသလိုပဲဗျ။ ကျုပ်လည်း တူနဲ့သံစို့ကို ကောက်ယူပြီး ဂူထဲကိုခပ်သုတ်သုတ်ပြန်ဝင်လိုက်တယ်။

ဘိန်းစားဘစိန်က ကျုပ်ကို ဓာတ်မီးထိုးပြတယ်။

"ပေး ငါ့ကို မင်းဓာတ်မီးထိုးပြ"

ကျုပ်လက်ထဲက သံစို့နဲ့ သံကလော်ကိုဆွဲယူလိုက်တယ်"

"ဘုတ်… ဘုတ်… ဘုတ်… ဘုတ်"

ကျွန်းခေါင်းကြီးကို သံစို့နဲ့ ရိုက်ပြီးအစလန်အောင် လုပ်နေတယ်။ ပြီးတော့ သံကလော်နဲ့ ကလော်တယ်။

"ဂျွိ"

ဆိုတဲ့အသံကြီး ထွက်လာပြီး။ ခေါင်းဖုံးကြီးနည်းနည်းဟလာ

တယ်။ ဘိုန်းစားဘစိန်က လန်သွားတဲ့ နေရာကစပြီး သံကလော်နဲ့ လိုက်ကလော်တယ်။

"ကျွီ… ကျွီ… ကျွီ"

သံတွေတစ်ချောင်းပြီးတစ်ချောင်း ကျွတ်ကုန်ပြီ။ နောက်ဆုံးတော့ ခေါင်းဖုံးကြီးပွင့်သွားပြီ။ ကိုဘစိန်က ခေါင်းဖုံးကြီးကို မယူပြီး ဘေးကို တွန်းချလိုက်တယ်။ ကျုပ်က ဓာတ်မီးကို ခေါင်းထဲထိုးလိုက်တယ်။

"ဟာင် အမှုန့်တွေဖြစ်နေပါလား"

"ဖြစ်ပြီပေါ့ တာတောရာ အနှစ်ငါးဆယ်တောင်ကျော်ပြီဆိုတော့ မြေကြီးဖြစ်ပြီပေါ့၊ ခေါင်းခွံနဲ့ လက်ဖျံရိုးတော့ ကျန်နေသေးတာပဲ"

ပြောပြောဆိုဆို ကိုဘစိန်ကြီးက ခါးကိုင်းကိုင်းကြီးကို ကုန်းလိုက်ပြီး အမှုန့်တွေထဲမှာ တစ်ခုခုကိုလိုက်စမ်းတယ်ဗျ။ တော်တော်ကြာအောင် စမ်းပြီးတော့မှ လက်ထဲမှာတစ်ခုခုကို ဆုပ်ထားတယ်။ လက်ကို လည်း ဆကြည့်သေးတယ်ဗျ။

"အင်း ဟုတ်လောက်ပါတယ်"

လို့ တစ်ခွန်းတည်းပြောပြီး ကျုပ်ထိုးပြထားတဲ့ မီးရောင်အောက် သူ့လက်ကို ဖြန့်ပြီးကြည့်တယ် မဲမဲအရာတစ်ခုကို လက်နှစ်ဖက်နဲ့ ပွတ်တိုက်ကြည့်တယ်။

"ဟာ လက်စွပ်ကြီးဗျ"

"အေးလေ ငါတို့လာရှာတဲ့ဟာပေါ့ကွ တာတောရ"

ပြောပြောဆိုဆိုနဲ့ ပုဆိုးခါးပုံစကို ဆွဲပြီးတိုက်နေပြန်တယ်။ ခဏကြာအောင်တိုက်ပြီးမှ မီးရောင်အောက်ကို ထုတ်ကြည့်တယ်။

"ဟာ ကျောက်စိမ်းကြီးဗျ တောက်နေတာပဲဗျာ။ ရွှေကလည်း ဝင်းနေတာပဲဗျို့"

"ရော့ ယူထား၊ အိတ်ကပ်ထဲကို ထည့်ထားလိုက်"

ကျုပ်ကကျောက်စိမ်းလက်စွပ်ကို အိတ်ကပ်ထဲ ထည့်လိုက်တယ်။ ကျုပ် တော်တော်ကို ပျော်သွားတာဗျို့။ အိန်းစားဘစိန်ကြီးကတော့ အမှုန့်တွေထဲမှာ လိုက်စမ်းနေပြန်တယ်။ ပြီးတော့ ဆွဲထုတ်လိုက်တယ်။ ပုဆိုးနဲ့ ပွတ်လိုက်၊ မီးရောင်မှာကြည့်လိုက် လုပ်ပြီးရော ဒါလည်း အိတ်ထဲထည့်ထား ရွှေဒင်္ဂါးကွ။ ရှိသေးသလား။ ငါရှာကြည့်ဦးမယ်။ ဟောဒီမှာတစ်ပြား။ ဟာဒီဘက်မှာတစ်ပြား၊ မရှိတော့ဘူးထင်တယ်ကွ။ ဒီခုံးဖြားပဲ ထည့်ပေးလိုက်တာထင်တယ်။ ကဲ ရော့ မင်းအိတ်ထဲကို သေသေချာချာ ထည့်ထားတာတော့။

ကျုပ်လည်း အိန်းစားဘစိန်လုပ်ခိုင်းတဲ့အတိုင်း သေသေချာချာ အိတ်ထဲကိုထည့်လိုက်တယ်။ ကိုဘစိန်က ခေါင်းခွံကြီးကိုလှူပြီး ပါးစပ်ထဲက သွားတွေကို ပွတ်ကြည့်နေတယ်။

"ဟာ ဟုတ်သားပဲကွ အားလုံးရွှေသွားတွေဟ၊ နှပ်စမ်း၊ ငါ့ကို ပလယာ"

ကျုပ်က ပလယာလှမ်းပေးလိုက်တယ်။ ကိုဘစိန်ကြီးက ခေါင်းခွံကြီးထဲက သွားတစ်ချောင်းကို ဆွဲနှုတ်လိုက်တယ်။ ပြီးတော့ ကျုပ်ကို လှမ်းပေးတယ်။ ကျုပ်ကလည်း လက်ဝါးဖြန့်လိုက်တယ်။ ကိုဘစိန်က သူ့ပလာယာမှာ ညှပ်ထားတဲ့ သွားကို ကျုပ်လက်ဖဝါးထဲ ထည့်လိုက်တယ်။ ကျုပ်ကလည်း တစ်ဖက်အိတ်ကပ်ထဲထည့်လိုက်တယ်။ ကျုပ်အကျီက အိတ်ကပ်နှစ်ဖက်ပါတဲ့ အကျီလေဗျာ။

"ရော့ ဒီမှာနောက်တစ်ချောင်း"

ကျုပ်ကလည်း အိတ်ကပ်ထဲ ထည့်လိုက်တယ်၊ နောက်တစ်ချောင်း၊ နောက်ထပ်တစ်ချောင်း၊ အားလုံး ကိုးချောင်းရှိပြီဗျ။

"ဟီး... ဟီး... ဟီး... ဟီး... ဟီး"

"ဟင် ဘာသံကြီးလဲဗျ။ ဂူပေါ်က လာတဲ့အသံကြီးဗျ"

ကျုပ်ရော ကိုဘစိန်ကြီးပါ လန့်သွားတယ်ဗျ။

"ဟား... ဟား... ဟား... ဟား... ဟား"

ရယ်သံကြီး တစ်မျိုးပြောင်းသွားတယ်။

"ဝူး... ဝူး... ဝူး... ဝူး"

စောစောက ကြားနေတဲ့ ခွေးအူသံကြီးကလည်း ဂူနားက ထပ်ထွက်လာနေတယ်။

"ဘယ်လိုလုပ်ကြမလဲ ကိုကြီးဘစိန်"

"ဒါမဖဲ့ဝါပါကွ၊ ငါကျွေးမွေးထားတာတွေကို လာစားနေတာဖြစ်မှာပေါ့။ ဒီတော့ ဒီလိုလုပ် မင်းဂူထဲကထွက်ပြီး တစ်ချိုးထဲ ထွက်ပြေးပေတော့ ငါက နောက်က ထွက်မယ်"

"ဟာ ကျုပ်ရှေ့က မထွက်ရဲဘူးဗျ၊ ကိုကြီးဘစိန် အရင်ထွက်ဗျာ ခင်ဗျားပြေးတဲ့နောက်ကို ကျုပ်လိုက်ပြေးမယ်ဗျာ"

"ကဲ ဒါဆိုရင် ငါအရင်ထွက်မယ် ဒီပစ္စည်းတွေတော့ ထားခဲ့တော့ကွာ အခြေအနေကြည့်ပြီးတော့ လာယူသင့်လည်း လာယူမယ်။ ဓာတ်မီးတော့ မင်းယူသွား ခါးမှာထိုးလိုက်၊ ကဲ ငါထွက်ပြီ"

ပြောပြောဆိုဆို ကိုဘစိန်ကြီးက မောက်ထားတဲ့ဂူဝေါက်ကြီးထဲ ခါးကိုင်းကိုင်းကြီးနဲ့ ငုံ့ထွက်လိုက်တယ်။

"အင်း"

ဂူပေါက်က လက်ကြီးတစ်ချောင်းက ကိုဘစိန်ကြီးရဲ့ ဆံပင်ဘုတ်သိုက်ကြီးကို ဆောင့်ဆွဲလိုက်တယ်။

"တာတေပြေးတော့"

ကျုပ်လည်း ဂူပေါက်ကြီးထဲကနေ ခုန်ထွက်ပြီး ကျုပ်လာတဲ့လမ်းအတိုင်းပြေးခဲ့တယ်၊ နောက်ကိုတော့ တစ်ချက်မှလှည့်မကြည့်ရဲဘူးဗျာ။ ကိုကြီးဘစိန်ကို ဒီအတိုင်းပဲ ပစ်ထားခဲ့ရတော့တာပေါ့။

ကျုပ်ပြေးလာလိုက်တာ ဘုန်းတွေးကုန်း သုသာန်အဝင်ဝကိုတောင် မြင်နေရပြီ။ ဒီတုံးမှာပဲ သင်္ချိုင်းဝမှာ ဘွားခနဲ ပေါ်လာတဲ့ အရိပ်လိုလိုကြီးတစ်ခုကို လှမ်းတွေ့လိုက်ရတယ်ဗျ။ ကျုပ်မြင်ရတာတော့ ဖြူဖြူကြီးဗျ။ ဆံပင်ဖားလျားကြီးချလို့၊ ကျုပ်လည်း တုန့်ခနဲရပ်လိုက်မိတယ်။ ဖြူဖြူကြီးက ကျုပ်ဘက်ကို လက်ဝါးကြီး ဖြန့်ပြတယ်၊ တောင်းနေတာဗျ။ သူ့ကျုပ်ဆီက တစ်ခုခုကို တောင်းနေတာကျုပ်သတိရပြီး အိတ်ကပ်ထဲက ရွှေဒင်္ဂါးပြားသုံးပြားကို ထုတ်ယူပြီး အဲဒီဖြူဖြူကြီးရှိတဲ့ဘက်ကို လှမ်းပစ်လိုက်တယ်။ ဖြူဖြူကြီးက လေထဲမှာ ခုန်ပြီးရွှေဒင်္ဂါးသုံးပြားကို လက်နဲ့ဝှေ့ပြီးဖမ်းလိုက်တယ်။

ကျုပ်ကရပ်ကြည့်နေတုံးမှာ လက်ဝါးကြီး ထပ်ဖြန့်ပြတယ်။ ကျုပ်က ဒီဘက်အိတ်ထဲက ရွှေသွားတွေကို အကုန်ဆုပ်ပြီး သူ့ဆီကို လှမ်းပစ်ပေါက်လိုက်တယ်။ ခုနကလိုပဲ လေထဲမှာခုန်ပြီး ဝှေ့ဖမ်းသွားပြန်တယ်။ ပြီးတော့ ကျုပ်ဘက်ကို လှည့်ပြီး လက်ဝါးဖြန့်ပြန်တယ်။ ဒီတစ်ခါတော့ လက်ချွပ်တောင်းမှန်း ကျုပ်သိတယ် ဒါတော့ ကျုပ်မပေး

နိုင်တော့ဘူး။ ကျုပ်ချက်ချင်းပဲ ညာဘက်ကို ချိုးပြီးပြေးတယ် ဖြူဖြူကြီးကလည်း ရိပ်ခနဲ ပျောက်သွားပြီး ကျုပ်ပြေးတဲ့လမ်းတည့်တည့်မှာ ပိတ်ရပ်နေပြန်တယ်။ ကျုပ်နဲ့တော့ သိပ်မနီးဘူးဗျ။ သူ့ကို လရောင်အောက်မှာ ဖြူဖြူကြီးတစ်ခုလို့ပဲ သိရတာ။ ကျုပ်ဘက်ကို လက်ကြီးဖြန့်ပြနေပြန်တယ်။ ကျုပ်ဘာလုပ်ရမှန်း မသိတော့ဘူးဗျ။

"ဟီး... ဟီး... ဟီး... မဖဲဝါဟဲ့"

"ဟာ"

ကျုပ်တစ်ကိုယ်လုံး ကြက်သီးဖျန်းခနဲ ထသွားတယ်။ ကျုပ်လည်း နှံမျောတဲ့စိတ်တွေပျောက်သွားပြီး အိတ်ထဲကို ကပျာကယာနှိုက်ပြီး လက်စွပ်ကြီးကို ထုတ်ယူလိုက်တယ်။ ကျုပ့်စိတ်ထင် အရုပ်ကြီးက ရှစ်ပေ-ကိုးပေလောက်မြင့်တယ်ဗျ။ ရုပ်တော့ ကျုပ်မမြင်ရပါဘူးဗျ။ မမြင်ရပေလို့ပေါ့ဗျာ။ မြင်ရရင်လည်း အသက်ပါထွက်သွားမလား မပြောတတ်ဘူး။

ကျုပ်လက်စွပ်ကြီးကို တစ်ချက်ငုံ့ကြည့်ပြီး သူ့ကိုလှမ်းကြည့်လိုက်တယ်။

"နင့်ဟာမဟုတ်ဘူး၊ တရုတ်ဟာ ဟေး"

အသံကြီးက ပီပီသသမဟုတ်ဘူးဗျ။ ဝါးဝါးကြီးပဲ၊ ဒါပေမဲ့ သူပြောတာကို နားတော့လည်ပါတယ်။ ကျုပ်ချက်ခြင်းပဲ လှမ်းပစ်လိုက်တယ်။ တော့ရွှေကလိုမဲ့။ လေထဲမှာ ခုန်ပြီးဖမ်းလိုက်တယ် ပြီးတော့ အဲဒီဖြူဖြူကြီးက မြေကြီးပေါ်ကိုပြန်မကျတော့ဘူးဗျ။ လေထဲမှာတင် ပျောက်သွားတယ်၊ ကျုပ်ကိုတောင် အေးစက်နေတဲ့လေတွေ ဟူးသွား

တယ်ဗျ။ ကျုပ်လည်း နောက်ပြန်လှည့်ပြီး သချိုင်းအဝကို ခွတ်ပြေးတော့တာပေါ့ဗျာ။

"ဂူး… ဂူး… ဂူး… ဂူး… "

ဆွဲဆွဲငင်ငင်အူနေတဲ့ ခွေးအူသံကြီးက တဖြေးဖြေးဝေးသွားသလိုပဲဗျ။ ကျုပ်လည်း အသက်လုပြေးရတော့တာပေါ့ဗျာ။ ကိုကြီးဘစိန်တော့ ဘာဖြစ်တယ် မသိဘူးဗျာ။ သူ့ကိုလည်း ပြန်မကြည့်ဖုံတော့ဘူးဗျို့။ ထနောင်းကုန်းကိုပြန်ရောက်တော့မှပဲ။ ကျုပ်ခါးက ခါးတောင်းကျိုက်ကြီးကို ဖြုတ်ချလိုက်ရတော့တယ်ဗျို့။

ကျုပ်လည်း မန်ကျည်းပင်ကြီးတစ်ပင်နောက်မှာ အသာဝင်ထိုင်ပြီး အမောဖြေရတော့တာပေါ့ဗျာ။ ပြီးတော့မှ မျက်နှာက ချွေးသီးချွေးပေါက်တွေ သုတ်ပြီး ပွဲဈေးတန်းဘက်ကို ဟန်မပျက် လျှောက်လာခဲ့ရတယ်။

တရုတ်အပိန်ရဲ့ ခေါက်ဆွဲကြော်ဆိုင်ထဲ တန်းဝင်လိုက်ပြီး -

"ဟေ့ ကိုပိန် ကျုပ်ကို ရမ်သုံးပတ်နဲ့ ဆော်ဒါတစ်လုံးပေးဗျာ ရေခဲရောရသေးလား"

"ဟာ ရတာပေါ့ တာတေရ မင်းလည်း ခုမှပဲ ရောက်လာတော့တယ်၊ ဘာလဲ အလုပ်များနေလို့လား"

"ဟုတ်ပဗျာ ကိုပိန်ရာ ဒီနှစ် ဖရိုတ်သတ်က ပိုများတော့ ပိုထိမ်းပေးရတာပေါ့ဗျာ။ ခင်ဗျားကော် ဒီနှစ်တော်တော်ရောင်းရပါတယ်ကွာ။ အခုထိလူပြည့်နေတာသာ ကြည့်လေ တာတေရာ"

"ဝမ်းသာပါတယ်ဗျာ ဝမ်းသာပါတယ်"

"ရှော့ ရမိနဲ့ဆိုဒါ ဒီမှာရေခဲတုံး ဟောတာက အပိန်ကြွေးတာ အခေါက်ကင် ပိုက်ဆံမပေးနဲ့ ရမ်ဖိုးပဲပေးခဲ့"

ကျုပ်လည်း အပိန်ချပေးတဲ့ ရမ်ထဲကို ဆော်ဒါရောပြီး ရေခဲတစ်တုံးထည့်ပြီး တစ်ချက်တည်းမော့ပစ်လိုက်တယ်။ ပြီးတော့မှ အခေါက်ကင် ထိုင်စားတယ်။ နောက်နှစ်ပတ်ထပ်သောက်တယ်။

"ဟာ ကိုကြီးတာတေ ဘယ်ပျောက်သွားလဲလို့ ဒီမှာလာပြီး ခိမ်ယစ်နေတာကိုး ဗျ"

"ဟေ့ကောင်တွေလာ ဘာသောက်မလဲ"

"မလာတော့ဘူးကိုကြီး တာတေ ကျုပ်တို့က အပိန့်ဆိုင်ကို ဒါသုံးခေါက်မြောက်လာတာ ဒီမှာပဲထိုင်မယ်။ ကိုကြီးတာတေ အရမ်းပင်ပန်းနေတာ ကျုပ်တို့သိပါတယ် အေးအေးဆွေးဆွေးနားပါ အားလုံး အေးအေးဆေးဆေးပါပဲ ပွဲလည်းငြိမ်နေတာပါဗျာ"

"အေးအေး ကောင်းတယ်"

ကျုပ်မြင်ခဲ့ရတဲ့ သွေးပျက်စရာကိစ္စကြီးကို ထိုင်တွေးရင်း မနက် (၂) နာရီထိုးလောက်မှာ ကျုပ်လည်းမူးလာတော့ ပွဲခင်းဘက်မသွားတော့ဘဲ။ အိမ်ကိုပဲ တန်းပြန်ခဲ့တယ်။ အိပ်ယာထဲမှာ ချင်ချင်း မအိပ်နိုင်သေးပဲ လင်းအားကြီးကြမှ မေးခနဲ အိပ်ပျော်သွားတယ်။ ပွဲပြီးသွားတာ လူတွေပြန်လာကြတာတွေ ကျုပ်ဘာမှ မသိတော့ဘူး။

ကျုပ်သိတာကတော့ မဖဲဝါဆိုတဲ့ အရိုပ်ဖြူဖြူကြီးက ကျုပ်ရှေ့မှာ တဟီးဟီးရယ်နေတာကြီးကိုပဲ အိမ်မက်မက်နေတာဗျို့။ အဲဒီနေ့က ကျုပ်မနက် (၁၀) နာရီလောက်မှ အိပ်ယာက နိုးတယ်။

အဘနဲ့ အမေကလည်း ကျုပ်ကို မနိုးကြဘူးဗျ။

ကျုပ်ဒီရက်တွေ သိပ်ပင်ပန်းနေမှန်းသိကြတာကိုး။ ကျုပ်အိပ်ယာ ကနိုးပြီး မျက်နှာပါသစ်ပြီးထွက်လာတော့။ ကျုပ်တို့ အိမ်မြောက်ဘက် ဝိုင်းက အရီးရွှေမြနဲ့ အမေနဲ့ တိုးတိုးပြောနေကြတာတွေ့ရသဗျ။ ကျုပ် လည်း အသာမသိမသာနားစွင့် ကြည့်ရတာပေါ့။

"ဟဲ့ လူကလေး ဒီကိုလာဦး ခဏ"

ကျုပ် အမေနားရောက်တော့ အမေက

"နင်က ခုမှအိပ်ယာက နိုးလို့ဘာမှမသိသေးတာ တာတေရဲ့ ရွာထဲမှာတော့ ကျွက်စီကျွက်စီဖြစ်နေပြီ"

"ဟင် ဘာဖြစ်လို့တုံးဗျ"

"ဘိန်းစားဘစိန်ကြီး သေပြီဟဲ့"

"ဟင် ကိုကြီးဘစိန်က ဘာဖြစ်လို့တုံး ညကလည်း ကျုပ်ရှိနေ တာပဲ ရန်တွေဘာတွေ ဖြစ်သံမကြားပါဘူး"

"ရန်ဖြစ်တာမဟုတ်ဘူးဟဲ့၊ ဘန့်ခွေးကုန်း သုဿန်မှာ တရုတ် ဂူဖောက်တာတဲ့ဟေ့။ အဲဒါ သူ့ရဲ့ဂုတ်ချိုးသတ်တာတဲ့။ ပါးစပ်ကြီး ထဲမှာလည်း အမဲသားတုံးကြီးတစ်တုံး ငုံလို့တဲ့ ဂုတ်ကြီးက ကျိုးပြီး သေနေတာတဲ့ လူတွေတစ်ရွာလုံး သွားကြည့်ကြလို့ ရွာထဲလူတောင် မကျန်တော့ဘူး နင်လည်း သွားကြည့်ချင် သွားကြည့်ချေပေါ့"

"ဟဲ့ ငွေစိန် မရှိတော့ဘူး။ ပုလိပ်တွေအလောင်း သယ်သွားပြီ တဲ့ မြို့ကိုပို့ရမှာဆိုပဲ"

"ဟင် ဟုတ်လား အရီး သယ်သွားပြီတဲ့လား"

"ကိုကြီးဘစိန်က ဘာဖြစ်လို့များ ဂူဖောက်ရတာတုံးဗျာ"

"ဟဲ့ တာတေရဲ့ ဘစိန်က ဘိန်းစားပဲဟဲ့။ သူမှာ ဘိန်းက မစားဘဲ နေလို့ရတော့တာ မဟုတ်ဘူးဟဲ့။ ဘိန်းဖိုးပြတ်ရင် မရရတဲ့နည်းနဲ့ ရှာမှာဝဲပေါ့။ ရွာပြန်ရောက်တာ (၂)ရက်လား ရှိသေးတာတဲ့"

"အေဒ် ဘိန်းစားဘစိန် ခုတော့ ဇာတ်သိမ်းသွားပြီပေါ့။ ဆံပင်ညှပ်တာလက်ရာကလေးကောင်းရဲ့သားနဲ့ ဒီဘိန်းသွားစားလို့ နာမည်လည်းပျက်၊ အခုတော့ ဘိန်းဖိုးရှာရင်းနဲ့ သရဲဂူတ်ချိုးသံတ်ခံလိုက်ရတာပေါ့လေ"

ကျုပ်လည်း အမေတို့နှစ်ယောက် ပြောဆိုနေတာတွေဆက်ပြီး မကြားချင်တော့တာနဲ့ ရွာထဲက ထွက်လာခဲ့တယ်။

"ကိုကြီးတာတေ၊ ခုမှနိုးလာတာလား"

"အေးကွ ငပြူးရ ငါခုမှနိုးတာ"

"ဒါဆို ဘိန်းစားဘစိန်ကြီးသတင်းမကြားရသေးဘူးပေါ့"

"ကြားပြီးပါပြီကွာ၊ အိမ်မှာ အရီးရွှေမြနဲ့ အမေတို့ပြောနေကြတာ ငါကြားပြီးပါပြီ"

"ဘိန်းစားဘစိန် ဂူဖောက်တာဗျ။ သရဲဂူတ်ချိုး သံတ်ခံလိုက်ရတာ။ သူ့ပါးစပ်ထဲမှာ အမဲသားတုံးကြီးရော ထမင်းစေ့တွေရော ငုံထားဆိုပဲဗျ။ ပုလိပ်တွေက ဂူပေါ်တက်ကြည့်တော့ ဂူပေါ်မှာ ငှက်ပျောဖက်ကြီးနဲ့ ထမင်းတွေ၊ အမဲသားဟင်းတွေ၊ တွေ့တယ်တဲ့ဗျ။ ကျုပ်တို့သွားကြည့်တော့ ဂူဘေးမှာမီးလျှက်သားကြီး သေနေတာဗျ။ ဇာက်ကြီးကျိုးကျနေတယ်။ ခါးတောင်းကြီးကလည်း ကျိုက်ထားသေးတယ်ဗျ"

ငပြုးက သူသွားကြည့်ခဲ့တာတွေကို ကျုပ်ကို တစ်လုံးမကျန် ပြန်ပြောပြတယ်။ ပုလိပ်တွေက တခြားဘယ်သူပါသေးလဲ ဆိုတာ စုံစမ်းနေတယ်တဲ့။

ဒါပေမဲ့ အဲဒီညက ဘိန်းစားဘစိန်နဲ့ အတူတူ ကျုပ်ပါတယ်ဆိုတာ ဒီကနေ့အထိ ဘယ်သူမှမသိကြပါဘူးဗျာ။

အဲ ခင်ဗျားတစ်ယောက် လွဲရင်ပါလေ.၊.

တာတေ



# ထူးဆန်းသောဗုတ်ကောင်

ကျုပ်တို့ရွာမှာက ရွာဦးကျောင်းရယ် ပုဗ္ဗာရုံကျောင်းရယ်ဆိုပြီး ဘုန်းတော်ကြီးကျောင်း နှစ်ကျောင်း ရှိတယ်ဗျ။ ပုဗ္ဗာရုံကျောင်းက ပိုပြီး ရှေးကျတယ်။ ကျောင်းဝင်းကလည်း အကျယ်ကြီးဗျ။ ရှေးလက်ရာတိုက်ကျောင်းကြီးဗျ။ ကျောင်းကတော်တော်ကို ခန့်ညားတာမျိုး။ ကျောင်းဝင်းကြီးထဲမှာကလည်း သရက်ပင်၊ အုန်းပင်တွေ မရမ်းပင်တွေ အစုံပါပဲဗျာ။ နေရောင်တောင် မထိုးအောင်ကို ရှိနေတော့တာဗျ။ နွေရာသီများဆို ပုဗ္ဗာရုံကျောင်းဝင်းကြီးက အေးစိမ့်နေတာဗျ။ ရွာထဲက အသက်ကြီးကြီးလူတွေ ပုဗ္ဗာရုံကျောင်းကြီးထဲသွားပြီး အပူဒဏ်ကို ခိုကြရတာ။

ပုဗ္ဗာရုံဆရာတော်ကလည်း သဘောကောင်းတာဗျ။ သူ့ကျောင်းဝင်းကြီးထဲမှာ ငှက်ပျောတောကြီးကလည်း ရှိနေတော့ ငှက်ပျောသီးဆိုတာကတော့ သူ့ကျောင်းမှာ ပြတ်တယ်လို့ကို မရှိပါဘူးဗျာ။ ဆရာတော်ဘွဲ့က ဦးဂုဏတဲ့ဗျ။ သူ့ကျောင်းမှာက ဦးပဥ္စင်းငါးပါးလောက်နဲ့ ကိုရင်ဆယ်ပါးလောက်ရှိတယ်။ ဓာတ်ဝါလည်းချင်ယံလေ။

အရှေ့ဘက်တောင်းကင်

ဗုဒ္ဓာရုံကျောင်းဝင်းကြီးရဲ့တောင်ဘက်ဆုံးမှာ သရက်ပင်အုပ်ကြီးရှိတယ်ဗျ။ အဲဒီ သရက်ပင်အုပ်ထဲမှာ သစ်သားနဲ့ နံကပ်ဆောက်ထားတဲ့ အုတ်ကျောင်းကလေးတစ်ကျောင်းရှိတယ်။ အဲဒီမှာက ဆရာတော်ဦးဂုဏရဲ့မယ်တော်ကြီးနေတယ်ဗျ။ မယ်တော်ကြီးကလည်း တော်တော်ကို အိုနေပါပြီ။ ဒီမယ်တော်ကြီးရဲ့ နာမည်ကတော့ ကျုပ်လည်းမသိဘူးဗျ။ ဘုန်းကြီးရဲ့တူမနှစ်ယောက်က မယ်တော်ကြီးကို အဖော်လုပ်ပြီးလာနေပေးတယ်။

ဘုန်းကြီးကလည်း သူ့မယ်တော်ကြီးကို အတော်ဂရုစိုက်တာဗျ။ အစားအသောက်၊ အနေအထိုင်လည်း ဂရုစိုက်သလို ကျန်းမာရေးမမာတာရှိရင်လည်း ဘန့်ဘွေးကုန်းမှာ ဆေးခန်းဖွင့်ထားတဲ့ ကျန်းမာရေးမှူးကိုပင့်ပြီး သေသေချာချာကုပေးတာဗျ။

ဒါပေမဲ့လည်း 'ဇရာဆိုတာကိုတော့ ဘယ်သူလွန်ဆန်နိုင်မှာလဲဗျာ။ အသက်ကလည်း ကြီးလာပြီဆိုတော့ တဖြေးဖြေးနဲ့ အပြင်တောင်မထွက်နိုင်တော့ပါဘူး။ သူ့ကျောင်းကလေးထဲမှာပဲ လှုပ်ရှားသွားလာနေရတာကြာပါပြီ။

ဘုန်းကြီးတူမ မသိန်းကြည်တို့၊ မလုံးကြည်တို့ကတော့ ရွာထဲမှာ ဈေးဝယ်ဘာဝယ်နဲ့ အမြဲသွားလာနေကြတော့ အားလုံးနဲ့ ခင်နေကြတာပေါ့ဗျာ။

"လုံးကြည်ရေ မယ်တော်ကြီးနေကောင်းရဲ့လားဟဲ့"

"ကောင်းပါတယ်တော့ အရီးဘုမရဲ့"

"ဒါဆိုရင် ဝက်သားနီချက်ကလေးတစ်ခွက် ပေးလိုက်ပါရစေ

တော်၊ မယ်တော်ကြီးက ဝက်သားဆိုအားကြီး ကြိုက်တာအေ့
လုံးကြည့်ရဲ့"

"အော်... ပေးလိုက်ပါတော်၊ ယူသွားလိုက်ပါ့မယ်"

"အေးအေး... ဘုန်းကြီးကိုတော့ နောက်ရက်မှ လာကပ်မယ်
အေ့၊ အနောက်ပိုင်းက ဆုံသားရတော့မှပဲ ဆွမ်းတစ်ချိုင့်ပို့မယ်လေ၊
ခုတော့ နည်းနည်းရလို့ မယ်တော်ကြီးအတွက်မဲ့ ဟင်းတစ်ခွက်ပေး
လိုက်တော့မယ်အေ့"

"ပေးတာတော့ ဟုတ်တယ် အရှီးဘုမရေ။ မယ်တော်ကြီးက
ခုတလော ဘာဖြစ်နေတယ် သိပါဘူးတော်"

"ဟဲ့ ဘာဖြစ်နေလို့တုံး"

"ဟိုတစ်နေ့က ဘယ်အိမ်က ဆွမ်းချိုင့်ပို့တယ် မသိပါဘူး
တော်၊ ဘုန်းကြီးက ဝက်သားဟင်း တစ်ချိုင့် ကျုပ်တို့ဆီ ပို့ပေးတယ်
တော့၊ နည်းပါဘူးတော်၊ ချိုင့်ကြီးနဲ့ကို တစ်လုံးအပြည့်ပါပဲ။ အဲဒါ
အရှီးဘုမရေ... မယ်တော်ကြီးတစ်ယောက်တည်း စားပစ်တာကုန်ပါ
ရောလား"

"ဟေ... ဟုတ်ရဲ့လားလုံးကြည့်ရဲ့"

"ဟုတ်ပါတော် ထမင်းတွေလည်း တစ်အိုးချက်ကြီး ကုန်ရော
တော့"

"ဟင်"

"အဲဒါညနေရောက်တော့ မေးသေးတယ် တော်ရေ"

"ဘာမေးတုံး"

"ဟဲ့ ဝက်သားဟင်း ကျန်သေးလားတဲ့။ ငါမဝသေးဘူး၊ ထပ်စားချင်သေးတယ်တဲ့"

"ဟော... နင်တို့ဟာ ဟုတ်မှဟုတ်သေးရဲ့လား လုံးကြည်ရဲ့"

"ဟုတ်ပါတယ်တော်၊ အဲဒီလောက်စားပေမဲ့ သူဘာမှဖြစ်တာမှ မဟုတ်တာ၊ နေထိုင်မကောင်း ဘာမှမဖြစ်ဘူးတော့"

"ဒီအကြောင်းဆရာတော်ကို နင်တို့ ပြောပြသေးလား"

"မပြောဝါဘူးတော်၊ လူဆိုတာ အသက်သိပ်ကြီးလာရင် သူငယ်ပြန်တတ်တာပဲတော်၊ မယ်တော်ကြီးလည်း အခု သူငယ်ပြန်တာဖြစ်မှာပေါ့ တော့။ ငယ်ငယ်ကလို အများကြီး ပြန်စားချင်တာနေမှာပေါ့"

"တစ်ခါတစ်ခါကြတော့လေ... အရီးဘုမ၊ အိမ်ယာထဲမှာ တစ်ယောက်တည်း ဘာတွေရယ်နေသလဲမသိပါဘူးတော်၊ အသံကြဲကြဲကြီးလုပ်ပြီး ရယ်နေတာ"

"နင်တို့က မေးစမ်းကြည့်ဘူးလား ဘာတွေရယ်နေလဲဆိုတာ"

"တစ်ခါတော့ မေးကြည့်ပါတယ်တော်၊ အဲဒါ ဘာပြန်ပြောတယ်ထင်လဲ"

"ဟဲ့ ငါ့ဟာ ငါရယ်ချင်တာရယ်မှာပေါ့၊ နင်တို့နဲ့ ဘာဆိုင်သလဲ၊ သေမှာမတွေ နင့်တို့သွားတွေကျန်အောင် စုပ်ဖစ်လိုက်ရမလား တဲ့"

"ဟော အဲဒီလိုပြောသလား လုံးကြည်ရဲ့"

"အေးပေါ့တော်၊ အသက်ကြီးလာတော့ ဒီလိုပဲ ကယောင်ကတမ်းတွေ ပြောချင်ရာ လျှောက်ပြောတာ နေမှာပေါ့တော်"

"ဒါပေမဲ့ နည်းနည်းတော့ သတိထားကြည့်ကြနော်၊ ညဆို လည်း အိပ်ပျော်နေပျော် မနေကြနဲ့၊ သတိလေးနဲ့ အိပ်ကြ"

"ညဆိုလို့ ပြောရဦးမယ်။ အရီးဘုမရေ နေ့ခင်းဆိုရင်တော့ မယ်တော်ကြီးက အိပ်ယာကကို မထနိုင်တာတော်၊ ညရောက်ပြီး ဆိုရင် အသံကလည်းမာလာတယ်တော့၊ ပြီးတော့ တစ်ခါတစ်လေ ကျုပ်တို့ အိပ်ပျော်နေတုံး ဘယ်တွေထသွားသလဲ မသိဘူး။ မနက် ကျတော့ ခြေထောက်မှာ သဲတွေပေလို့တော်ရေ"

"ဟဲ့ နှင်တို့ ဒီအကြောင်းတွေကို ဆရာတော်ကို မလျှောက်ကြ ဘူးလားဟဲ့ ... လုံးကြည်ရဲ့"

"အွင်း ခုတော့ မလျှောက်ဖြစ်သေးပါဘူးတော်။ ဘုန်းကြီးက လည်း ကျောင်းကြီးအနောက်ဆောင်ကို ပြင်ဆင်နေတာဆိုတော့ ခု ရက် အလုပ်များနေတယ်ဖေ အရီးရယ်"

"အေးအေး ဟုတ်တယ် ဟုတ်တယ်၊ နောက်ရက်ကြတော့ ဆရာ တော်ကို မယ်တော်ကြီးအကြောင်း နည်းနည်းလျှောက်ထားလိုက်ဦး"

"ဟုတ်ကဲ့ ဟုတ်ကဲ့၊ ကဲ ကျုပ်လည်း စကားကောင်းနေလိုက် တာ သွားဦးမှ တော်"

မလုံးကြည် ထွက်သွားတာနဲ့ အရီးဘုမက တဘက်ကလေး တစ်ထည်ခေါင်းဆောင်းပြီး ဒီသတင်းကို အရှေ့ပိုင်းက အဖွားဒေါ် ထယ်ကို သွားပြောတော့တာပဲမျိုး။

"အရီးထယ်၊ ကျုပ်တော့ ပုဗ္ဗာရုံဆရာတော်ရဲ့ မယ်တော်ကြီးကို တယ်ပြီး မသင်္ကာချင်ဘူးတော်။ မရိုးတော့ဘူးထင်တာပဲ"

"ဟဲ့ ဘယ်လိုဖြစ်လို့တုံး ဘုမရဲ့"

"ဟာ နေ့ဘက်ဆိုရင် အိပ်ယာထဲတုံးလုံး လူမမာကြီးတဲ့၊ ထတာတောင် လူတွဲမှ ထနိုင်တာ။ ညဆို အကောင်းကြီးတဲ့။ သူ့ဟာသူ ထသွားနေတာတဲ့။ သူ့စောင့်တဲ့ သူ့မြေးမတွေ အိပ်ပျော်နေရင် အပြင်တွေ လျှောက်သွားတာတဲ့တော်ရေ။ ခြေထောက်မှာ သဲတွေ ပေလို့တဲ့ မနက်လင်းမှ ဟိုဟာမနှစ်ယောက်သိတာတဲ့ အရီးရေ"

"ဟေ"

"ဝက်သားများစားလိုက်ရင် တစ်ချိုင့်လောက်ကို အသာကလေးတဲ့ ဖဘောင်မဝဘူးဆိုပဲ"

"ဟေ ဒါဆိုရင်တော့ ဟုတ်လောက်တယ် ဘုမရဲ့၊ ဒါဖုတ်ဝင်တာပဲ။ ဖုတ်ဆိုတာ အမျိုးမျိုးရှိတယ်ဆိုပဲဟဲ့။ သွေးစုတ်ဖုတ်တို့ ရွှေထီးဆောင်းဖုတ်တို့ ဆိုလား ငါလည်း စုံအောင်တော့ မသိပါဘူးယယ်။ ပြီးတော့ အခုဟာက ညဘက်အပြင်လျှောက်သွားတယ်ဆိုတာ သိပ်မကောင်းဘူးထင်တယ် ဘုမရဲ့"

"ရှင် ဘာဖြစ်လို့လဲ အရီးရဲ့"

"ဟဲ့ ဘုမ ငါကြားဖူးတယ် တစ်ချို့ဖုတ်က ရွာထဲဝင်ပြီး ကြက်တွေကြောင်တွေတောင် အစိမ်းဖမ်းစားတာဆိုပဲ"

"အောင်မယ်လေး ကြောက်စရာပါလား အရီးရယ်"

"ဒီကိစ္စ ဘယ်လိုလုပ်မလဲ။ ဆရာတော်ကို လျှောက်ကြရင် မကောင်းဘူးလား"

"တို့က လျှောက်လို့တော့ ဘယ်ကောင်းမလဲ ဘုမရဲ့။ ဆရာတော့်တူမတွေ လုံးကြည်တို့ သိန်းကြည်တို့ပဲ လျှောက်ခိုင်းရမှာပေါ့"

"အင်း ဒါလည်း ဟုတ်တာပဲ ညည်း အသာနေပါ။ ကျုပ် လုံးကြည်တို့ကို အသာတိုးတိုး ကပ်မေးပြီး ပြောသင့်တာ ကျုပ်ပြော လိုက်ပါ့မယ်။ မပြောခင်သေချာအောင် ကျုပ် စမ်းလိုက်ပါဦးမယ်"

"အင်း... ကောင်းတယ် အရီး၊ ကောင်းထယ် မြန်မြန်သာလုပ် ပေတော့"

"အေးပါ ညည်းပြောကတည်းက ကျုပ်က စဉ်းစားနေတာပါ အေ။ ဒီတစ်ရက် နှစ်ရက်ဆို သိမှာပါ"

အဖွားကြီးတွေ ပါးစပ်များ သိပ်ကြောက်စရာကောင်းတာဗျ။ ဒီသတင်းဟာ ရွာထဲမှာ ကြိတ်ပြီးပျံ့နေပြီ။ ဘုန်းကြီးမယ်တော် မှတ် ဝင်နေတယ်ပေါ့ဗျာ။

ပျံ့မယ်ဆိုရင်လည်း ပျံ့ချင်စရာပဲဗျ။ အဖွားကြီးတွေ တိုးတိုး ...တိုးတိုး လုပ်နေတဲ့ ရက်မှာပဲ တစ်မနက် ကျုပ်ဆီကို အရှေ့ပိုင်းက တိုးလှ ဆိုတဲ့ကောင် အစော်ကြီး ပေါက်ချလာတယ် လာပုံကလည်း ပြာပြာ ပြာပြာနဲ့ ဗျို့။

"ဟကောင်ကြီး တိုးလှလာလေကွာ။ ဘာစားပြီးပြီလဲ၊ ငါဒီမှာ အမဲသားဟင်းကျန်နဲ့ ထမင်းကြမ်းစားနေတာ။ တစ်ခါတည်း ဝင်စား လိုက်ပါလား"

"ဟာ ကိုကြီးတာတေစားဗျ ကျုပ်က အစောကြီးထဲက စားပြီး ပြီ"

"ဟာ မင်းဟာက ခုမှမိုးလင်းရုံရှိသေးတာ မင်းက ဘယ် လောက်စောစောထပြီး စားတာတုံး"

"ကျွန်က ညကတည်းက ခုထိ အိပ်ကိုမအိပ်သေးတာဆိုတော့ အုန်းကြီးကျောင်းတုံးခေါက်တဲ့ အချိန်မှာ ဗိုက်ဆာလို့ စားထားတာ ရှိ၊ ကျုပ်တို့လည်း အမဲသားပါဒလ"

"ဟာ ဒါဆိုလည်း မင်းလာတဲ့ကိစ္စပြောကွာ ငါ စားရင်းနားထောင်ရတာပေါ့"

"ဒါထက် အဘတို့၊ အရီးတို့ရောဗျ"

"မနက်အစောကြီးထပြီး လှည်းကောက်ကြတယ်။ ပြီးတော့ မီးလောင်ကုန်းဘက် သွားပါရောလား"

"ရော ဘာကိစ္စတုံးဗျ"

"မီးလောင်ကုန်းမှာ အဘရဲ့ ညီအစ်ကိုဝမ်းကွဲတစ်ယောက် တော်တော်နေမကောင်းလို့ဆိုပြီး လူလွှတ်ခေါ်လို့ကွ"

"အော်... ကဲကဲ ကျုပ်လာတဲ့ ကိစ္စပြောရမှာပဲဗျာ။ ဒီလိုဗျ ကိုကြီးတာတေရဲ့၊ ညက သန်းခေါင်ကျော်တဲ့အထိ ကျုပ်မအိပ်သေးဘူး အိမ်ကကိုင်းခုတ်ဓားနှစ်ချောင်းကို အရှိုးပြန်လဲနေတာဗျို့ တော်တော်နဲ့ အဆင်မပြေတော့ သန်းခေါင်ကိုကျော်ရော။ အလုပ်ပြီးသွားလို့ အိပ်မလို့ စိတ်ကူးပြီး ဆေးပေါ့လိပ် ထိုင်သောက်နေတုံး ရှိသေးဗျ။ အိမ်က ခွေးနှစ်ကောင်က တအီအီနဲ့အော်ပါရောဗျာ။ ဒီခွေးတွေ အော်တဲ့အသံက ထူးဆန်းတယ် ကိုကြီးတာတေရဲ့ တစ်ခုခုကို ကြောက်နေတဲ့ပုံဗျ။ ဒါနဲ့ ကျုပ်လည်း အသာကလေး ထရံပေါက်ကနေအပြင်ကို ချောင်းကြည့်လိုက်တာပေါ့။ အောင်မယ်လေးဗျာ မိန်းမကြီးတစ်ယောက်ဗျ။ တဘီကြီးတိုတိုဝတ်လို့ တိုဆိုထဘီက

ပေါင်လယ်လောက်အထိကို ဝတ်ထားတာဗျ။ ဆံပင်ကလည်း ဖားလျားကြီးချလို့ ကျုပ်တို့ အိမ်ဘေးမှာရပ်ပြီး ဟိုကြည့်သည်ကြည့်ကြည့်နေတာဗျ"

"ဟာ... မင်းမှာ ခွေးကောင်းတွေရှိတာပဲ၊ မဟောင်ကြဘူးလားကွ တိုးလှရ"

"ကိုကြီးတာတေကလည်း ကျုပ်ပြောပါရစေလား ဟောင်ဖို့နေနေသာသာ ခွေးတွေက ကြောက်လွန်းလို့ အိမ်အောက်နားမှာပြီး အီအီနဲ့ကြိတ်အော်နေတာဗျို့"

"ဟာ တစ်မျိုးပါလားကွ"

"ကျုပ်လည်း တော်တော်ကြောက်သွားတာဗျ၊ ဒါပေမဲ့ ကျုပ်စိတ်ထဲမှာ ဒါသူရဲတော့ မဟုတ်ဘူး။ လူပဲ၊ ဧကန္တ အရူးမကြီးထင်တယ်။ ဘယ်ရွာကများ ရောက်လာတာလဲဆိုပြီး ဆက်ကြည့်နေတာပေါ့ဗျာ။ အဲဒီတုံးမှာ မြာခံနဲ့ အိမ်ရှေ့ဘက်ကို လှည့်ထွက်သွားတာမို့၊ ကျုပ်လည်း ချက်ခြင်းအိမ်ရှေ့ဘက်ထွက်ပြီး တံခါးကြားကနေချောင်းကြည့်တာပေါ့။ ဟာ... ကိုကြီးတာတေရေ ကျုပ်တို့ အိမ်ရှေ့ဝိုင်းထဲက ကြက်အိပ်တန်းတက်တဲ့နေရာ သိတယ်မို့လား"

"အေး သိတယ်လေကွာ"

"အဲဒီနားရောက်တော့ အိပ်တန်းတက်နေတဲ့ ကြက်သုံးကောင်ကို သေသေချာချာ ကြည့်တာဗျို့၊ ပြီးတော့မှ ရွှေနားလို့ ကျုပ်ခေါ်တဲ့ စစ်တကောင်းကြက်ဖကြီးကို ဆတ်ခနဲဆွဲပြီး လည်ပင်းကို လိမ်ချိုးလိုက်တာဗျို့ မြန်လိုက်တာမှဗျာ"

"ဟော ဟုတ်လားကွ"

"ကြက်ဆိုတာ အသံတစ်သံတောင်မထွက်နိုင်ဘူးဗျို့၊ ပြီးတော့ ကြက်ဖကြီးလည်ချောင်းကို ကုန်းကိုက်တော့တာပဲဗျာ။ ကျုပ်အထင် တော့ သွေးစုတ်တာထင်တယ်ဗျ။ ထဲဘီကြီးပေါင်လယ်လောက်ဝတ် ပြီး ဆံပင်ဖားလျားကြီးနဲ့ဗျာ ကြက်ဖကြီးကတော့ သူ့လက်ထဲမှာ ဆန့်ငင် ဆန့်ငင်ဖြစ်ပြီး ငြိမ်သွားတာပေါ့ဗျာ။ တော်တော်ကြာအောင် သွေးစုတ်ပြီးတော့မှ ကျုပ်တို့ဝိုင်းထဲက ထွက်သွားတယ်ဗျို့"

"ဒါနဲ့ မှင်းရဲ့ ကြက်ဖကြီးရော ယူသွားလား"

"ယူသွားတာပေါ့ဗျ၊ ဒါနဲ့ ကျုပ်လည်း အိမ်ထဲဝြန်ဝင်ပြီး ဓေ ဓော်က အရိုးတပ်ထားတဲ့ ကိုင်းခုတ်ဓားကိုဝင်ယူ၊ အိမ်ရှေ့တံခါးကို အသာကလေးဖွင့်ပြီး ခပ်လှမ်းလှမ်းက တိတ်တိတ်လေးရပ်ကြည့်နေ တော့တာပေါ့ဗျာ။ ကျုပ်ကြက်ဖကြီးကိုတော့ တန်းလန်းကြီး ဆွဲသွား တာဗျို့။ ကျုပ်ကလည်း သစ်ပင်ကြီးတွေကွယ်ပြီး ချောင်းကြည့်နေရ တာ ကိုကြီးတာတေရေ"

"ရွာထဲမှာ ခွေးရှိတွေ ဒီလောက်များတာ တစ်ကောင်တစ်လေ တောင် မဟောင်ဘူးလားကွ"

"ခင်ဗျားခွေးတွေ ဟောင်ဖို့နေနေသာသာ ကျုပ်တို့အိမ်က ခွေး ဘူရဲကောင်းကြီး နှစ်ကောင်လိုပဲ လှုပ်တောင် မလှုပ်ရဲကြဘူးဗျ။ တအီအီနဲ့ ကြောက်ပြီးတုံနေကြတာ။ နောက်တော့ အဲဒီ ဆံပင်ဖား လျားကြီးက လူကျော်တို့ ဝိုင်းရှေ့အရောက်မှာ မတ်တပ်ကြီး ရပ်ပြီး လူကျော်တို့ဝိုင်းထဲကို ကြည့်နေတာဗျို့။ ခဏနေတော့ ကျုပ်ကြက်ဖ

ကြီး ငွေနားကို ဘုတ်ခနဲ ပစ်ချခဲ့ပြီး ဝိုင်းထဲဝင်သွားရောဗျို့၊ ကျုပ်လည်း အရီးမပြားကြည်တို့ဝိုင်းရှေ့က တမာပင်ကြီးနောက်ကနေ ပုန်းကြည့်နေတာပေါ့၊ ခဏနေတော့ အဲဒီဆံပင်ဖားလျားကြီး ပြန်ထွက်လာရောဗျို့။ ဟာ ဘာပြောကောင်းမလဲ။ လူကျော့်ကြက်ဖကြီးကို ဆွဲလာပြီး သွေးစုတ်နေပါရောဗျာ လည်ပင်းကနေကိုက်ပြီး စုတ်တာဗျို့၊ အဲဒီကြက်ဖကြီးကို သွေးစုက်ရက်ကြီးနဲ့ အရှေ့ဘက်ဆက်လျှောက်သွားတော့ ကျုပ်လည်း နောက်က ခပ်ခွာခွာက လိုက်ပြန်ရောပေါ့ဗျာ။ နောက်ဆုံးတော့ ဒီဟာကြီး ဘယ်ဝင်သွားတယ်ထင်လဲဗျ"

"ဟေ ဘယ်ဝင်သွားတုံးကွ"

"ပုဗ္ဗာရုံကျောင်းထဲတန်း့ဝင်တာဗျို့၊ ကျုပ်လည်း ခြံစောင်းကိုင်ပြီးလိုက်တာ ကျောင်းအနောက်ဘက် ချောင်ထဲဝင်တာ ဗျို့ ပြီးတော့ မယ်တော်ကြီးကျောင်းကလေးထဲ ဝင်သွားတာဗျ"

"ဟေ ဟုတ်လားကွ တိုးလှရဲ့"

"ဟုတ်ပဗျာ ညီကကျုပ်မျက်စေ့နဲ့ကို တတ်အပ်မြင်ရတာပါဗျာ"

"ဒါဆို အဲဒါဆရာတော့်မယ်တော်ကြီးပေါ့"

"ဟုတ်ပဗျာ မယ်တော်ကြီးဖုတ်ဝင်နေသလိုလို ရွာထဲပြောသံကြားပေမဲ့ ကျုပ်က တယ်မယုံပါဘူးဗျာ၊ အခုကတော့ မျက်မြင်ပဲ ကိုကြီးတာတေရေ အဲ ပြောရဦးမယ်၊ လူကျော့်ကြက်ဖကြီးကိုတော့ တန်းလန်းဆွဲသွားရင်းကနေ သွေးကုန်သွားလို့ ထင်ပါရဲ့ဗျာ ကျောင်းပေါက်ဝမှာ ဘုတ်ဆို ပစ်ချသွားတယ်ဗျ အဲဒီကြက်ဖကြီးရော

ကျွန်းကြက်ဖကြီးရော ကျုပ်ကောက်ယူလာတယ် ကိုကြီးတာတေကို သက်သေပြဖို့ပေါ့ဗျာ။ အဲဒါကို ဘယ်လိုလုပ်ကြမလဲ ကိုကြီးတာ တေ"

"ဟာ လူကြီးတွေကို ဒီအကြောင်း တိတိကျကျပြောရတော့မှာ ပေါ့ကွ။ ကျန်တာကတော့ သူတို့ဆက်လုပ်လိမ့်မယ်။ ကဲ အခုပဲ မင်းနဲ့ ငါ သွားကြမယ်၊ နေဦး ဟိုဘက်ဝိုင်းက ငါ့တူမနှစ်ယောက်ကို အိမ် စောင့်ခေါ်ထားခဲ့ဦးမယ်ကွာ"

ကျုပ်လည်း ကျုပ်တူမ မျောက်ရှုံးနှစ်ကောင်ကို အိမ်မှာလာ ခေါ်ကြလို့ မိတ်မနွက ပြပြီး တိုးလှတို့ အိမ်ကို လိုက်ခဲ့တာယ်။ ဟိုရောက်တော့ ဟုတ်ပဗျာ။ တိုးလှရဲ့ စစ်တကောင်းကြက်ဖကြီးရော၊ လူကျော်ရဲ့ကြက်ဖမွေးနီကြီးရော သေနေပါရောလား။ ကျုပ်ကဒဏ်ရာ ကို လိုက်ရှာတော့ တိုးလှပြောတဲ့ အတိုင်းပဲ လည်ပင်းမှာ သွားရာ ကြီးတွေ တွေ့တယ်ဗျ။ သွေးစုပ်တာသေချာတယ်ဗျို့၊ ကြက်ဖကြီး တွေမှာ သွေးတစ်စက်မှကို မရှိတော့တာဗျ။ တိုးလှ အဖေအမေတွေ ကိုလည်း ကျုပ် အကျိုးအကြောင်းပြောပြတယ်။ ပြီးတော့ ကြက်ဖ ကြီးတွေ တစ်ယောက်တစ်ကောင်ပွေ့ပြီး လူကျော်တို့အိမ် သွားကြ တယ်။ လူကျော်က နိုးတောင်မနိုးသေးဘူးဗျ၊ အဲဒါ ဒီကောင့်လည်း နိုးပြီး သူ့အဖေရှေ့မှာပဲ ညက တိုးလှတွေ့ခဲ့တာတွေ အကုန်ပြော ပြရတာပေါ့။ လူကျော့်အဖေဘိုးညီလေးက ဆရာတော်နဲ့ အလွန် ခင်တဲ့ ဘိုးသံဘညာကျော်ဆီကို သွားပြီး အကျိုးအကြောင်းပြောချင်းလို့ ကျုပ်ရယ်ကောင်လေးနှစ်ကောင်ရယ် သွားကြတယ်၊ ကြက်ဖအသေ တွေလည်း ယူသွားရတာပေါ့"

ဘိုးသာညဏ်ကြီးကို အကျိုးအကြောင်း အားလုံးပြောပြတော့ ဘိုးသာညဏ်ကြီးက…

"ဟာ… ဒီအတိုင်းဆိုရင် တော်တော်ဆိုးနေပြီပဲကွ၊ ဒါကို ဆရာတော်လည်း ရိပ်မိသွားပြီကွ။ ငါလည်း သေသေချာချာ စမ်းပြီးပါပြီ မယ်တော်ကြီးကို ဖုတ်ဝင်နေတာ သေချာတယ်ကွ။ တခါတော့ တောင်ပိုင်းက မမယ်ထယ်ကြီး ငါ့ကိုလာပြောလို့ တစ်ညမှာ မမယ်ထယ်နဲ့ ငါနဲ့ တိုင်ပင်ပြီး စမ်းကြည့်တာကွ။ ဝက်သားတစ်ပိဿာတွဲ တစ်တွဲဝယ်ပြီး အမယ်ကြီးရှေ့မှာပဲ သူမြင်အောင် ဝက်သားတွဲကြီး ပြတာပေါ့ကွာ။ ဟဲ့ လုံးကြည်၊ မနက်ဖြန် မယ်တော်ကြီးကို ဒီဝက်သားတွေ ချက်ပေးလိုက်လို့ ပြောခဲ့တာ။ လုံးကြည်ကိုတော့ ကွယ်ရာခေါ်ပြီး မီးဖိုဆဲမှာ အိုးအလွတ်နဲ့ထည့်ပြီး လုံအောင်ဝှက်ထား လိုက်လို့ ပြောလိုက်တယ်။ လုံးကြည်ကလည်း လယ်ပကွာ၊ ဝက်သားတွဲကို ဒန်အိုးလွတ်ထဲထည့်ပြီး ထင်းပုံအောက် ထည့်ထားဆိုပဲ။ အပေါ်က ထင်းချောင်းတွေနဲ့ ပြန်စီပြီးဝှက်ထားလိုက်တယ် ဆိုပဲကွ။ မနက်မိုးလင်းတော့ သူဝှက်ထားတဲ့ဝက်သားအိုးက ခြေရာလက်ရာ မပျက်ဘူးဆိုပဲ အထဲဖွင့်ကြည့်လိုက်တော့မှ ဝက်သားကတစ်စက်မှကို မရှိတော့ပဲ ဝက်သားတွဲချည်တဲ့ သင်အူးကြိုးတွေပဲ တွေ့တော့တယ်တဲ့ဟေ့"

"ဟာ ဒါဆို ဘိုးတို့လည်း သိနေပြီပေါ့"

"အေးလေ စမ်းတောင် စမ်းကြည့်ပြီးပါပြီးဆိုမှကွ။ အဲဒီအကြောင်းတွေ ဆရာတော်ကို လျှောက်ပြီးလို့ ဆရာတော်က ငါ့က်

ဆရာရှာပါလို့ ပြောတယ်ကွ။ ငါလည်း ဆရာကြိုတ်ရှာနေတာ တစ်ပါတ်လောက်တော့ ရှိပြီပေ့ါ။ သတင်းတော့ ရနေပါပြီ အခု အဖြစ် အပျက်ကြီးဖြစ်လာတော့ ဆရာတော်ကို ထပ်လျှောက် ရဦးမှာပေါ့ကွာ။ ကဲကဲ မင်းတို့ ကြက်ဖကြီး တွေပြန်ယူသွား။ ချက်တော့မစားနဲ့နော်။ မြေကျင်းနက်နက်တူးပြီး မြှုပ်သာပစ်လိုက်။ ဒါမျိုးဆိုတာ ရောဂါအယ ဖြစ်တတ်တယ်ကွဲ့။

"ဟုတ်ကဲ့ ဘိုး၊ ကျုပ်တို့ ဒါတွေ မြေမြှုပ်ပစ်လိုက်မယ်"

"အေးကြည့်ရတာတော့။ မယ်တော်ကြီးကိုဝင်တဲ့ ဖုတ်က သွေး စုတ်တဲ့ဖုတ်မျိုးထင်တယ်ကွ၊ ရွာထဲဝင်မွှေတာတောင် ခွေးမဟောင်ရဲဘူး ဆိုတော့ နည်းတဲ့အဆင့်မဟုတ်ဘူးထင်တယ်။ သူ့ကိုနိုင်လောက်တဲ့ ဆရာနဲ့မှ ဖြစ်မှာကွ။ မတော်တဆခါက် ဆရာမျိုးနဲ့ဆို သူ့ကို သွား ဆွသလိုဖြစ်ပြီး တစ်ရွာလုံးကို ဒုက္ခပေးမှာ စိုးရတယ် တာတေရ"

"ဟုတ်တယ် ဘိုး။ ဘိုးပြောတာ ဟုတ်တယ်၊ တော်တော်ထက် တဲ့ ဆရာနဲ့မှ ရဦးမှာဗျ"

✤ ✤ ✤

ပုဗ္ဗာရုံဆရာတော်ကလည်း ဒီအကြောင်းတွေ အားလုံးသိသွား ပြီဆိုတော့ ညဆိုရင် မယ်တော်ကြီးကျောင်းရှေ့မှာ ဦးပဥ္စင်းနှစ်ပါးစီ အလှည့်ကြ စောင့်ကြတယ်။ ဒီတော့ ရွာထဲတွော့ မလာတော့ဘူးဗျ။

ဒါပေမဲ့ သူ့ကိုစောင့်အိပ်တဲ့ လုံးကြည်နဲ့ သိန်းကြည်ကို အမြဲ တမ်း ထိထားနေတာဆိုပဲ။ လူတွေပြောတာတော့ သွေးစုတ်တာလို့

ပြောတာပဲဗျ။ ဟုတ်တော့ဟုတ်နိုင်တာပဲ။ လုံးကြည်တို့ သိန်းကြည်တို့ဆိုတာ တစ်နေ့တခြား ပိန်ခြောက်လာကြတာဗျို့။ ဒီကြားထဲ ဆရာတွေ ပင့်ပင့်လာပြီး ပြကြည့်ပါတယ်။

တစ်ချို့ဆရာတွေဆိုရင် မယ်တော်ကြီးအနားမှာ ထိုင်တောင် မထိုင်ကြဘူးဗျ။ တစ်ချိုးဖြည်း သုတ်တော့တာပဲ။

တစ်ချို့ကြတော့လည်း "ဘုရားစာတွေရွတ်ဖတ်သရဇယ်တုံး ရှိသေးတယ်"

"ဟဲ့ အကောင် သေချင်လို့လား ဆိုပြီး"

ထအော်လိုက်တာ လန့်ပြီးပြေးတော့တာပေါ့ဗျာ။ ဆရာတစ် ယောက်ဆိုရင် ဆေးလွယ်အိတ်ကြီးပါ ထားပစ်ခဲ့လို့ မနည်းတို့ ခေါ် ပေးရတာဆိုပဲဗျ။ မယ်တော်ကြီးကလည်း တစ်နေ့ထက်တစ်နေ့ ကြမ်း လာပုံပဲဗျို့။ ထမင်းတစ်ခါစားရင် နို့ဆီဘူး သုံးလုံးချက်လောက် ကုန် တာတဲ့ဗျ။

"အမဲသားနဲ့ကျွေး၊ ဝက်သားနဲ့ကျွေးဆိုတာပဲ အမြဲ ပြောနေတာ ဗျို့။ ဆရာတော်ကလည်း ဘိုးသာဉာဏ်တို့ကို အပြီးလွှဲလိုက်ပြီဗျ။ ဒါပေမဲ့ ဘိုးသာဉာဏ်ကလည်း ဆရာရှာလို့ မတွေ့သေးလို့ သည်းခံ ပြီးကျွေးမွေးနေတာဗျ"

အမဲသားဆိုလည်း တစ်ပိဿာချက်ကို ပြုတ်ကနဲ ပဲတဲ့။ ဝက် သားဆိုလည်း တစ်ပိဿာချက်ကို ပြုတ်ကနဲ ပဲတဲ့။ နဲနဲအောင် တွေး ထားတော့ ငြိမ်နေတာပေါ့ဗျာ။ တစ်ဘက်ကလည်း ဆရာကိုနယ် အနံ့ စုံစမ်းရတာပေါ့လေ။ တွေ့တဲ့ဆရာတွေကလည်း မယ်တော်ကြီး

ကိုယ်ထဲဝင်နေတဲ့ ဖုတ်ကောင်ကို နိုင်တဲ့သူတစ်ယောက်မှ မရှိ ဖြစ်နေတာပေါ့ဗျာ။

ကျုပ်တို့ရွာထဲတင် မကတော့ဘူးဗျို့။ ဒီသတင်းက အနားက ရွာတွေအထိ ပျံ့နှံ့နေပြီလေ။ ပုဗ္ဗာရုံဆရာတော်ရဲ့ မယ်တော်ကြီး ဖုတ်ဝင်နေလို့တဲ့။ ရွာထဲက ကြက်တွေတောင် ညဘက်ထွက်ဖမ်းပြီး သွေးစုတ်တာတဲ့ ဆိုတာတွေကို ဘယ်လိုမှ တားလို့မရဘူးပေါ့ဗျာ။

ဒီအချိန်မှာပဲ ဘိုးသာညက်တို့အဖွဲ့တွေ ဆရာတစ်ယောက် ရလာတော့တာပဲဗျို့။ ဆရာက အသက်ငါးဆယ်လောက် ရှိမယ်ထင်တယ်။ နာမည်က ဦးကျော်တဲ့ ဆရာကျော်လို့ ခေါ်ကြတယ်ဗျ။ အသားညိုညို ပိန်ပိန်ပါးပါးဗျ။ မျက်လုံးတွေကတော့ အရောင်တောက်နေတာပဲ။ ပုံစံကတော့ ခပ်အေးအေးပါ။ အရင်ရောက်လာတဲ့ ဆရာတွေထောက်တောင် ဟိတ်ဟန် မရှိလှပါဘူး။

“ဒီဆရာနိုင်ပါ့မလားကိုကြီးတာတေရဲ့”

“ဘိုးလှက ဆရာကျော်ကို မသိမသာ အကဲခတ်ရင်း ကျုပ်ကို ကပ်မေးတယ်”

“စောင့်ကြည့်ရမှာပေါ့ကွာ။ သူမနိုင်ရင် အရင်ဆရာတွေလိုပဲ ပြေးမှာပေါ့ကွာ ဘိုးလှရာ။ ပူမနေပါနဲ့”

“အဲဒါတော့ ဟုတ်ပါတယ်။ ကျုပ်က စိတ်ပူတာက နိုင်တယ်ဆိုလုပ်ပြီးမှ မနိုင်မနင်းဖြစ်ရင် ရွာဒုက္ခဖြစ်မှာ စိုးလို့ ပြောတာပါ”

“အဲဒီလိုတော့ မဖြစ်လောက်ပါဘူးကွာ”

ဆရာကျော်က မယ်တော်ကြီးကို ကြည့်ချင်တယ်လို့ ပြောလို့

တိုးသာညဏ်ရယ်၊ ကျုပ်ရယ်။ တိုးလှရယ်၊ အခြား လူသုံးလေး ယောက်ရယ် ဆရာကျော်ကို ပုဇွန်ရုံကျောင်းထဲပင့်သွားကြတယ်။ ဆရာတော့်ကိုတော့ မခေါ်တော့ပါဘူး။ ဆရာတော်က ဘိုးသာညဏ် ကို အားလုံးလွှဲပြီးသားပဲလေ။ ဒီကိစ္စတွေမှာ သူဝင်မပါချင်ဘူးလို့ ပြောထားတယ်ဗျ"

မယ်တော်ကြီးကျောင်းကို ကျုပ်တို့ ဆန်းသွားလိုက်ကြတယ်။ ဆရာကျော်ကျောင်းထဲဝင်လိုက်တာနဲ့ မယ်တော်ကြီးက

"တောက်"

တောက်ခေါက်တော့တာပဲဗျို့။ ဆရာကျော်ကတော့ ခပ်အေး အေးပဲဗျ။ မယ်တော်ကြီးကို ခြေဆုံးခေါင်းဆုံးကြည့်ပြီး အကဲခတ် တယ်။

"နှင့်မယ်ထင်သလား စမ်းကြည့်လိုက်လေ"

ဆရာကျော်က မယ်တော်ကြီးအိပ်နေတဲ့ ကုတင်နားကို ကပ်သွား ပြီး

"မင်း ဘယ်တလဲ"

လို့ အသံခပ်ပြတ်ပြတ်နဲ့ မေးတယ်ဗျ။ မယ်တော်ကြီးက လှုပ် တောင်မလှုပ်ဘူး။

"မင်း ဘယ်သူလဲ"

ဆရာကျော်က ထပ်မေးပြန်တယ်။ မယ်တော်ကြီးက အရေး တောင်မစိုက်ဘူးဗျို့။

"ဝါး"

တစ်ချက်သန်းတယ်ဗျ။ ဆရာကျော်က ဟသွားတဲ့မယ်တော

ကြီးရဲ့ ပါးစပ်ထဲကို သေသေချာချာ ငုံ့ကြည့်တယ်ဗျာ။ သူဘာတွေ တွေ့သလဲတော့ ကျုပ်တို့ သိဦး မသိဘူး။ ဆရာကျော်က နောက်ကို ချာခနဲလှည့်ထွက်သွားတော့တာပဲ။ ကျောင်းအပြင်ရောက်တော့မှ ဆရာကျော်က ပြောတယ်ဗျ။

"ဒီကောင်သွေးစုတ်ဖုတ်ဗျ။ လွယ်လွယ်နဲ့တော့ ထုတ်လို့မရဘူး။ တော်တော်ကို ခက်ခက်ခဲခဲ ထုတ်ယူရမယ်။ လက်ဖွယ်ဖို့ ဘယ်နှစ်ရက်လိုသေးတုံး"

"သုံးရက်ပဲ လိုတော့တယ်ဆရာ"

ဘိုးသာညာဏ်ကပြန်ဖြေတယ်။ ဆရာကျော်က ခေါင်းကလေး ညိတ်ပြီး။

"အင်း ဒါဆိုအတော်ပါပဲ ကျုပ်တို့ပြင်ဆင်ရတာနဲ့ဆို အံကိုက်ပါပဲ"

"ဟုတ်ကဲ့ပါဆရာ၊ ဆရာဘာတွေလိုအပ်သလဲ ပြောပါ။ အင်းကိုသာညာဏ်တို့ အိမ်ရောက်မှပဲ ဖြေးဖြေးပြောကြတာပေါ့ဗျာ။ ဆရာကျော်နဲ့ ကျုပ်တို့အဖွဲ့ ဘိုးသာညာဏ်တို့ အိမ်ကို ပြန်လာခဲ့ ကြတယ်။ ဘိုးသာညာဏ်တို့ အိမ်ကိုရောက်တော့မှ ဆရာကျော်က ရှင်းပြတယ်ဗျ။

ဒီကောင် ပါးစပ်ဟလိုက်တဲ့ အချိန်မှာ အစွယ်တွေကို သူတွေ့လိုက်ရတယ်တဲ့။ နည်းနည်းနောနော အကောင်မဟုတ်ဘူး။ အစွယ်ကြီးတွေမှ အရှည်ကြီးတဲ့ဗျာ။ ကျုပ်တို့ကတော့ ဘာမှ မမြင်ဘူးပေါ့ဗျာ။ သူကတော့ ပညာမျက်စိနဲ့ဆိုတော့ မြင်နိုင်တာပေါ့လေ။

"မထမဆုံး ပြောချင်တာက ဒီကောင်ကို မေတ္တာရပ်ခံတာတို့ ချော့မော့ထုတ်တာတို့လောက်နဲ့တော့ မရနိုင်ဘူးဆိုတာပါပဲ"

ဒုတိယပြောချင်တာက ဒီကောင်ဘယ်သူဆိုတာ တိတိကျကျ သိရမယ်။ ဒါမှ သူ့ကို ဘယ်အဆင့်လောက်ရှိတဲ့ ဆေးနဲ့ တိုက်ထုတ်ရမယ်ဆိုတာ သိမှာဗျ။ နောက်တစ်ခုက တိုက်ရမဲ့ဆေးကို သိတာတောင်မှ ကျုပ်တိုက်လို့သောက်မှာ မဟုတ်ဘူးဗျို့။ သူတို့မော့မကြည့်ရဲအောင် ကြောက်တဲ့သူကို ခေါ်တိုက်ခိုင်းရမှာဗျ"

"အလို သူတို့မှာ မော့မကြည့်ရဲလောက်အောင် ကြောက်တဲ့သူ ရှိသလားဗျ ဆရာကျော်ရဲ့"

"ရှိတာပေါ့ ကိုသာညဏ်ရယ်"

"ဟင် ဘယ်သူများပါလိမ့် ဆရာကျော်"

"ဘယ်သူရှိဦးမလဲဗျာ မဖဲဝါပေါ့"

"ဗျာ"

ဒီတစ်ခါ အလန့်တကြားအော်မိတာက ကျုပ်ဗျ။ မဖဲဝါ တဲ့ဗျာ။ ကျုပ် ဘယ်တော့မှ မကြားချင်တဲ့နာမည်ဗျ။

"ဟုတ်တယ် ခေါင်တာတေရဲ့ မဖဲဝါကို ကျုပ်ခေါ်ဖူးပါတယ်။ ဒီလိုအဆင့်မြင့်တဲ့ ကောင်တွေနဲ့ တွေ့ရင် သူ့ကိုပဲခေါ်ပြီး အကူအညီတောင်းရတာကွဲ့"

"အော်... မဖဲဝါက ကူညီရဲ့လားဗျ"

"ဟာ ကူညီပါသော်ကောကွာ"

ဆရာကျော် ပြောလို့သာ ခေါင်းညိတ်လိုက်ရတယ်။ ကျုပ်က

တော့ ကျောထဲမှာ စိမ့်သွားတာပဲဗျို့။ အင်းတစ်ခါတော့ ကြုံရခြေ ဦးမယ်လို့ စိတ်ထဲတွေးနေမိတာပေါ့ဗျာ။

ဒီလိုနဲ့ ဆရာကျော်ကလည်း အမြဲ့ရှန်ဝင်တယ်ဗျ။ လိုအပ်တဲ့ ဆေးဝါးတွေလည်း စီရင်တယ်။ ပြီးတော့ ကျုပ်တို့ကို ဘာပြောတယ် ထင်သလဲ။

"မင်းတို့ လူငယ်ပိုင်းက လကွယ်နေ့ညမှာ လူနှစ်ဆယ်လောက် စုထားကြကွာ။ မကြောက်တတ်တဲ့ ကောင်တွေဖြစ်မှနော်။ တော်ကြာ ထွက်ပြေးနေလို့ အန္တရာယ် ဖြစ်နေဦးမယ်။ ပြီးရင် လက်သမားလည်း ခေါ်ထား။ ဒီကောင်ကြီး ထွက်သွားတာနဲ့ မယ်တော်ကြီးက ချက်ချင်း ပုတ်မှာနော် ခေါင်းစမ်ဖို့ ပျဉ်တွေအဆင်သင့် ဆောင်ထား ခေါင်း အားချင်းစပ်ပြီး ကွင်းထဲကိုထမ်းထုတ်ရမယ်ကွ"

"ဟာ... စိတ်ချပါဆရာ ကျုပ်တို့ အားလုံး စီစဉ်ထားမယ်။ ဆရာလုပ်စရာရှိတာသာလုပ်ပါ။"

"ကိုသာညွှန်ရေ ဒီရွာမှာ နတ်ဝင်သယ်ရှိလားဗျ"

"ဟာ ဒီမှာတော့ မရှိဘူးဆရာကျော်။ ငွေတွင်းကုန်း မှာတော့ ဒေါ်ထွန်းဆိုတဲ့ မိန်းမတစ်ယောက်ရှိတယ်ဗျ။ ဘာလဲ ဆရာကျော် အဲဒီမိန်းမကို ခေါ်ပေးရမှာလား"

"ခေါ်မှဖြစ်မယ်ဗျ၊ ကိုသာညွှန်ရဲ့"

"ကောင်းပြီလေ ဘယ်တော့ခေါ်ရမလဲသာ ပြောပါ"

"မနက်ဖြန်လကွယ်နေ့မို့လား အဲဒီမိန်းမကို ညနေအရောက် ခေါ်ထားဗျာ။ ဒီမိန်းမ သတ္တိရှောကောင်းရဲ့လား"

"မထွန်းက သတ္တိကောင်းဗျ၊ ဇာတ်ဇာတ်ကျဲမပဲ ဘာမှ သိပ်ကြောက်တတ်တာ မဟုတ်ဘူး"

"ဟန်ကျတာပေါ့ဗျာ။ ဒါဆိုလည်း မထွန်းသာရအောင်ခေါ်ဖို့"

"စိတ်ချပါဆရာ ကျုပ်လူလွှတ်ခေါ်ရင် ချက်ချင်းလာပါတယ်"

✦ ✦ ✦

လကွယ်နေ့တော့ ရောက်ပြီဗျို့။

ဆရာကျော်က ကျုပ်ကိုခေါ်ပြောတယ်။

"တော်တော့ရဲ မင်းရွာထဲလှည့်ပြီး ဆော်ဩလိုက်ကွာ။ ယာထဲဆင်းတဲ့ လူတွေ ညနေသုံးချက်တီးအရောက် ရွာထဲ ပြန်ဝင်ကြရမယ်။ ညနေငါးနာရီထိုးတာနဲ့ ရွာပြင်က လူကို ရွာထဲ အဝင်မခံတော့ဘူးလို့ပြော။ အိမ်တံခါးတွေရော ရွာတံခါးပါ ညနေ ငါးနာရီအပြီး ပိတ်ကြရမယ်။ ပြီးရင် တစ်ညလုံး အိမ်ပြင်ကို ဘယ်သူမှ မထွက်ကြစေနဲ့ကြားလား"

ဟုတ်ကဲ့ ဆရာ ကျုပ်အခုပဲ လှူခဲ့ပြီး ဆော်ဩလိုက်မယ် ပြောပြောဆိုဆိုပဲ ကျုပ်က တိုးရာ့တို့၊ လှကျော်တို့ကိုခေါ်ပြီး လူငယ်တွေ စုခိုင်းရယ်။ ပြီးတော့ပြောရမဲ့စကားတွေ သင်ပေးတယ်။ အိမ်စဉ် လှည့်ပြီး ဆော်ဩခိုင်းလိုက်တယ်။

ညနေ (၃) နာရီလောက်မှာပဲ ငွေတွင်းကုန်းက နတ်ဝင်သည် ဒေါ်ထွန်းကြီးရောက်လာတယ်ဗျ။ ရွာသားတွေကလည်း ကျုပ်တို့ ဆော်ဩထားတဲ့အတိုင်း ရွာထဲကို ခပ်သုတ်သုတ် ပြင်ဝင်လာကြ တယ်။

ဆရာကျော်ကိုယ်တိုင်လည်း ဘုရားစင်မှာ ဖယောင်းတိုင်တွေ ထွန်းပြီး ဘုရားရှိခိုးတယ်ဗျ။ ညနေ၆ါးနာရီ ထိုးတာနဲ့ ရွာတံခါးတွေ ပိတ်လိုက်ကြတယ်။ အိမ်တံခါးတွေလည်း ပိတ်လိုက်ကြတယ်။ ရွာက ခွေးတွေဆိုတာများ ကြောက်လိုက်ကြတာ မပြောပါနဲ့တော့။ တအီအီနဲ့ အော်ပြီး တံခါးတွေ အတင်းတိုးတော့တာဗျို့။

"ဟဲ့ ခွေးကို ဖွင့်မပေးနဲ့ အပြင်မှာထားလိုက် အပဆိုတာ ခွေးနဲ့ ကပ်ပါလာတတ်တာ" လို့ လူကြီးတွေက ပြောတော့ ခွေးတွေကို အိမ်ပြင်မှာပဲ ထားကြရတာပေါ့။ ညမိုးချုပ်စအပြုမှာ ဆရာကျော်ရယ်၊ ကျုပ်ရယ်၊ တိုးလှရယ်၊ တခြားကာလသား နှစ်ယောက်ရယ် ဓါတ်ထွန်းကို ခေါ်ပြီး ရွာပြင်ထွက်ကြတယ်။

ထန်နောင်းကုန်းသုဿာန်ကို သွားကြတာဗျ။ သုဿာန်ထဲရောက်တော့ မှောင်နေပြီဗျို့။ ကာလသားနှစ်ယောက်က ရွာတံခါးမှာ စောင့်ကျန်နေခဲ့တယ်။ တံခါးကို ကျုပ်တို့အထွက်မှာ ဖွင့်ပေးပြီး ပြန်ပိတ်ထားကြရတာ။ ကျုပ်တို့ပြန်လာမှ ပြန်ဖွင့်ပေးဖို့ ဆရာကျော်က မှာတယ်။

သုဿာန်ထဲရောက်တော့ မြက်ခင်းပြင်လေးပေါ်မှာ ဆရာကျော် အသင့်ယူလာတဲ့ ထမင်းထုတ်ကို ဖြေချလိုက်တယ်။ ကြက်သားဟင်းဗျ၊ ကြက်တစ်ကောင်လုံးကို ချက်ထားတာ ထမင်းပေါ်မှာ ဟင်းတုံးကြီးတွေ ဖြန့်ထားတယ်။

ကျုပ်မြင့် ဘိန်းစားခာစိန်ကြီးကို မြေးပြီး သတိရလိုက်တာဗျာ။ ကျော့ထဲမှာလည်း စိမ့်သွားတာပဲ။ ဆရာကျော်က ထမင်းထုတ်အေားမှာ

ဖရောင်းတိုင် နှစ်တိုင် စိုက်ပြီး မီးထွန်းတယ်ဗျ။ ပြီးတော့ ဒေါ်ထွန်းကြီးကို ထဘီခိုင်ခိုင်ဝတ်ခိုင်းတယ်။ ဆံပင်ကို ဖားလျားချခိုင်းတယ်။ ပြီးတော့ ထမင်းထုတ်နှားမှာ ဆောင့်ကြောင့်ကြီး ထိုင်နေခိုင်း ပြန်တယ်။

"မဖဲဝါရေ ဆရာ့ကို တစ်ခါဖြင့် ကူပါဦးဗျာ။ ရွာထဲမှာ ဘုန်းကြီးရဲ့ မယ်တော်ကို သွေးစုတ်ဖုတ်တစ်ကောင်ဝင်နေတာ ထုတ်ဖို့ တော်တော်ခက်နေတယ်ကွဲ့။ မဖဲဝါ ဆရာ့ကိုကူပါ။ မဖဲဝါအတွက် ယူလာတဲ့ ထမင်းနဲ့ဟင်းကို မြိန်မြိန်ရှက်ရှက်စားပါဗျာ။ သချိုင်းတကာကို အပိုင်ရတဲ့ စောင့်ရတဲ့ မဖဲဝါကို ဖိတ်မန္တက ပြုပါတယ်။ ဆရာ့ကို ကူညီပါ မဖဲဝါ... ဆရာဖိတ်..."

"ဟီး ဟီး"

ဆရာကျော်စကားတောင် မဆုံးသေးဘူးဗျို့။ နတ်ဝင်သည် ဒေါ်ထွန်းကြီး အသားတွေတဆတ်ဆတ်တုံလာပြီး လက်ကြီးတွေ ကွေးကောက်လာတယ်။ ဆရာကျော်ကို မျက်လုံးပြူးကြီးနဲ့ လှန်ကြည့်တယ်ဗျ။

တိုးလှတို့၊ လှကျော်တို့လည်း နောက်ကို ခြေတစ်လှမ်းလောက် ဆုတ်သွားကြတယ်ဗျ။ ကျုပ်ကိုယ်တိုင်လည်း ခြေတစ်လှမ်းဆုတ်လိုက်မိတယ် ထင်တယ်ဗျ။

"မဖဲဝါ ဟုတ်ရဲ့လားဟေ့"

ဆရာကျော်ရဲ့ ပြတ်သားတဲ့ အသံက ထွက်ပေါ်လာတယ်။ ဆိတ်ဆိတ်နေတဲ့ သချိုင်းထဲမှာတောင် ဟိန်းထွက်သွားတယ် ထင်ရတယ်ဗျို့၊ မဖဲဝါက ခေါင်းပဲ ညိတ်ပြတာပေါ့။

"ဒါဆိုရင်စားပါဗျာ။ သဘောရှိစားပါ"

မဖဲဝါဝင်နေတဲ့ ဒေါ်ထွန်းကြီးက ခြေထောက်ကြီးအား ထိုင်ချ လိုက်ပြီး ပြူးပြူးပြံပြံနဲ့ ထမင်းတွေစားတော့တာပါပဲ။ ကြက်သားတုံး ကြီးတွေကိုလည်း ဂိုးဂိုးဂွပ်ဂွပ် မြည်အောင် ကိုက်တော့တာပါပဲဗျာ။ ဆရာကျော်အသင့်ယူလာတဲ့ ရေဘူးထဲက ရေကို ရေဖလားတစ်လုံး ထဲ ထည့်ပေးလိုက်တယ်။

"ရေလည်း သောက်ပါမဖဲဝါ"

မဖဲဝါကလည်း ရေသောက်တယ်ဗျ။ ရေဖလားကို လက်နှစ် ဖက်နဲ့ စုံကိုင်ပြီး မော့တာပဲဗျို့၊

"ဒီလိုပါ မဖဲဝါ ဒီရွာက ဘုန်းကြီးရဲ့မယ်တော်ကြီးကို၊ သွေး စုတ်မှုတ်တစ်ကောင်ဝင်နေတယ်ကွဲ့။ အဲဒါ ဆရာတစ်ယောက်တည်း တော့ ထုတ်လို့ရမယ်မထင်လို့ မဖဲဝါကို အကူအညီတောင်းရတာ ပါ။ အရင်တုံးကလည်း ဆရာ့ကို မဖဲဝါကူညီခဲ့ဖူးပါတယ်"

ဆရာကျော်က ခပ်အေးအေးပဲပြောတယ်ဗျ။ မဖဲဝါက ထမင်း စားနေရင်းကနေ ဆရာကျော်ကို မျက်လုံးပြူးကြီးနဲ့ စိုက်ကြည့် တယ်။ ပြီးတော့မှ ခေါင်းကို ညိတ်ပြတယ်။

ထမင်းတပုံကြီးနဲ့ ကြက်တစ်ကောင်ချက်ကို စားလိုက်တာများ မြန်ဆိုကနဲ ကုန်ရောဗျို့။ ပြီးတော့ ရေဖလားကြီးကို မော့သောက်တယ်။ တချက်တို့ ရေနဲ့ လက်တွေ ဆေးလိုက်သေးတယ်ဗျ။ ပြီးတော့မှ ဗုန်းခနဲ ခုန်ထထိုင်တယ်။ ကျွန်တော်တို့ကိုတောင် မစောင့်ဘဲ ရှေ့ကနေ ရွာဘက်

ကိုသွားတော့တာပေါ့။ ဆရာကျော်နဲ့ ကျုပ်တို့လည်း နောက်က အမြေး လိုက်ရတော့တာပေါ့။

"ဟော့ တာတော မင်းကောင်တွေ ရွာတံခါးဖွင့်ခိုင်းထားဟေ့"

"တံခါးဖွင့်ထားဟေ့"

ကျုပ်ကလှမ်းအော်လိုက်တယ်။ ဟိုကောင်နှစ်ကောင်က ကျုပ် အသံ ကြားတော့ ရွာတံခါးကို အသင့်ဖွင့်ထားတယ်ဗျ။ မဖဲဝါဝင် နေတဲ့ ဒေါ်ထွန်းကြီးကတော့ မြွေကားယား လက်ကားယားကြီးနဲ့ ရွာထဲကို ဝင်တော့တာပဲဗျို့။ ကျုပ်တို့ရွာထဲက ဖြတ်လာတော့ အိမ် တွေ အားလုံး မီးတွေ မှိတ်ထားပြီး ငြိမ်နေကြပြီဗျို့"

"ဟီး... ဟီး... ဟီး... ဟီး..."

မဖဲဝါရဲ့အသံနက်ကြီးနဲ့ အော်ရယ်တဲ့ အသံက ရွာကို ကျော် ထွက်သွားပုံပဲဗျို့။ ခွေးတွေဆိုတာ ဟောင်ဖို့နေနေသာသာ လှုပ်တောင် မလှုပ်ဝံ့ကြဘူးဗျ။ မဖဲဝါက ရွာအရှေ့ပိုင်းက ပုဗ္ဗာရုံကျောင်းထဲတန်း ဝင်လာတာဗျို့။ ပြီးတော့ ကျောင်းရှေ့က ကွင်းပြင်မှာ ခါးကြီးထောက်ပြီး ရပ်နေတယ် ဆံပင်ကတော့ ဖားလျားကြီးပေါ့။

"ကြောက်တဲ့သူတွေ ကျောင်းပေါ်တက်နေကြ။ တာတေလည်း နောက်ဝေးဝေးဆုတ်နေ"

တိုးလှနဲ့ ကျုပ်ပဲ ကျန်ခဲ့တယ်။ ဟိုကောင်တွေကတော့ ကျောင်း ပေါ် တက်ပြေးတော့တာပဲဗျ။ ဆရာတော်လည်း ကျောင်းကြီးပေါ် ကနေကြည့်နေတာ တွေ့ရတယ်ဗျို့။

"ငါမဖဲဝါ ခေါ်တယ်၊ ဆစ်ကောင်မကျန် အခုရောက်အောင် လာခဲ့"

အသံနက်ကြီးကား အမှောင်ထဲမှာ လွှမ်းသွားတယ်။ ကျီးကန်းတွေ ခေါ်ကနဲ ထပျံသွားတယ်ဗျ။

"အလို ဘုရားရေ မနည်းပါလား"

လို့ ကျုပ်ပါးစပ်က ယောင်ပြီးပြောလိုက်မိတယ်။ မြက်ခင်းကြီးထဲမှာ နီနီရဲရဲမျက်လုံးလေးတွေ အများကြီးပဲဗျ၊ အားလုံး ငုတ်တုပ်ထိုင်နေကြပုံပဲ။ သေသေချာချာတော့ ဘာမှ မမြင်ရပေမဲ့။ မျက်လုံးနီနီတွေကတော့ အများကြီးပဲ ဗျို့။ တစ်ရာတော့ အသာကလေးကျော်မယ်ဗျ။ ဖုတ်၊ ပြိတ္တာ၊ တစ္ဆေ၊ သူရဲတွေများလာချည်လားလို့ ကျုပ်တွေးမိတယ်ဗျ။



"နင်တို့လူစုံပြီလား ဘယ်သူလိုနေလဲ ပြောစမ်း"

ဘယ်လိုအသံကြီးမှန်းမသိဘဲ အသံကြီးနဲ့ မဖဲဝါက မေးတယ်ဗျ။ နီနီရဲရဲ မျက်လုံးတွေက ဟိုကြည့်သည်ကြည့် လိုက်ကြည့်တယ်။ ဘာမှ ပြန်ပြောတာတော့ မကြားရဘူး။

"ဘာပြောတယ် မေကြီး၊ ဟုတ်စ။ ဘယ်ကကောင်လဲ"

မျက်လုံးနီတွေက ဘာပြန်ပြောတယ်ဆိုတာတော့ ကျုပ်မသိဘူးဗျ။

"ဘာ... အောက်ပြည်ကရောက်လာတာ ရာရာစစ၊ ငါ့ခွင့်ပြုချက် မရပဲလာတဲ့ကောင် တွေ့ကြသေးတာပေါ့၊ ကဲ... နင်တို့ခုချက်ချင်းသွားတော့"

မဖဲဝါက အသံနက်ကြီးနဲ့ အော်ပြောလိုက်တော့ မျက်လုံးနီတွေ

လည်း ချက်ချင်းပျောက်သွားကြတယ် မဖဲဝါက မယ်တော်ကြီး ကျောင်းဘက်လှည့်ပြီး

"ဟဲ့ ငမဲကြီးဆိုတဲ့ကောင် အခုလာခဲ့စမ်း"

လို့ တစ်ခွန်းပဲအော်လိုက်ရောတယ်။ ဒီကောင်ကြီးက ထဘီပေါင်လယ်လောက်ဝတ်ပြီး ထွက်လာတယ်ဗျ။ ဆံပင်ကြီးကလည်း ဖားလျားကြီးနဲ့ပါဗျာ။

"ဟဲ့ လာစမ်း၊ ဒီကို ငါ့ရှေ့မှာ ဒူးထောက်စမ်း"

မယ်တော်ကြီးက ဒယီးဒယိုင်နဲ့လျှောက်သွားပြီး ဒေါ်ထွန်းကြီးရှေ့မှာ ဒူးထောက်တာပေါ့ဗျာ။

တကယ်ကတော့ မဖဲဝါရှေ့မှာ ငမဲကြီးဆိုတဲ့ ဖုတ်ကောင်ကြီး ဒူးထောက်နေတာပေါ့ဗျာ။

"နှင့် ဒီလို သွားချင်တိုင်းသွားပြီး လုပ်ချင်တိုင်းလုပ်လို့ ရမလား၊ ဟဲ့ ဆရာဆေးတိုက်လိုက်၊ နှင့်မှာဆေးအဆင်သင့်ရှိတာ ငါသိတယ်၊ နောက်ဆုံးဆေးဟဲ့ သိလား၊ လူသေသွေးနဲ့ဖော်တဲ့ဆေး"

မဖဲဝါကပြောတော့ ဆရာကျော်က ပြာပြာသလဲ ရေတစ်ခွက်ခပ်ပြီး ဆေးအိတ်ထဲက ဆေးပုလင်းထုတ်တယ်ဗျ။ ကျုပ်က ဓာတ်မီးထိုးပြရတယ်။ ဆရာကျော်က နီနီဆေးမှုန့် နည်းနည်းကို ရေထဲထည့်လိုက်ပြီး မွှေလိုက်တယ်။ ပြီးတော့ ငမဲကြီးကို...

"ကဲ ငမဲ အခုချက်ချင်း ဆေးသောက်လိုက်"

လို့ အမိန့်ပေးတယ်။ ငမဲကြီးက ဆရာကျော်ကို မျက်စောင်းနဲ့ လှန်ကြည့်တယ်။

"ဟဲ့ အကောင်အခု သေဒက်လိုက်ရမ်း"

လို့ မဖဲဝါက အသံနက်ကြီးနဲ့ အော်လိုက်တာ ကျောင်းဝင်းကြီး ထဲမှာ ဟိန်းသွားတာပဲဗျို့။ ငမဲကြီးလည်း ကြောက်ကြောက်ရွံ့ရွံ့နဲ့ ဆရာကျော်လက်ထဲက ရေခွက်ကိုယူတယ်။ ချက်ချင်းတော့ မသောက်ဘူးဗျ။ ရှိုက်ချတုံချတုံလုပ်နေတယ်။

"ဟဲ့ မသောက်ဘူးလား"

လို့ မဖဲဝါက အော်ရင်းလက်ကွေးကွေးကြီးကို မြှောက်ပြီးရိုက် မယ်လုပ်တော့မှ ငမဲကြီးက ဆေးခွက်ကိုမော့သောက်လိုက်တယ် ဗျို့။

ဆေးတွေဝင်သွားတာနဲ့ တပြိုင်နက်တည်း ဘုန်းဆိုလဲကျသွား ပြီး ဆန့်ငင်ဆန့်ငင်ဖြစ်နေတာဗျို့။

"သေပြီမို့လားဟဲ့။ သေပြီမို့လား၊ ဟီး... ဟီး... ဟီး... ဟီး... ဟီး..."

လို့ အသံနက်ကြီးနဲ့ အော်ရယ်နေတယ်ဗျ။

ကျုပ်ဖြင့် ကြက်သီးတွေ တဖျန်းဖျန်းထနေတာဗျို့။ တအားအော် ရယ်ပြီး မဖဲဝါထွက်သွားတယ်ထင်တယ်ဗျ။ ဒေါ်ထွန်းကြီးလည်း မြက်ခင်းပေါ်မှာ လဲကျသွားတယ်။ ဆရာကျော်က ဒေါ်ထွန်းကို ပွေ့ပြီး ရေခန်းနဲ့ တောက်၊ ဂါထာတွေရွတ်တယ်ဗျ။ ခဏနေတော့ ဒေါ်ထွန်းသတိပြန်ရလာတယ်။ သူ့ဘာမှကို သိပုံမပေါ်တာဗျ။

ဆရာတော်နဲ့ ရွာသားတွေအညီး ကျောင်းပေါ်ကဆင်းလာကြ တယ်။ ဘိုးသာဉာဏ်က မယ်တော်ကြီးကို ရမ်းသပ်ကြည့်တယ်။

"မရှိတော့ဘူးပေါ့၊ ကဲ… ကဲ… မယ်တော်ကြီးကို မပြီး ကျောင်းကလေးထဲပြန်သယ်ကြဟော့ အလောင်းပြင်မဲ့သူက ပြင်၊ ခေါင်းစပ်တဲ့သူ စပ်တော့၊ ကဲ ဝင်းကြည်တို့ လူစုက အော်ကီလင်း ဓာတ်မီးတွေထွန်းကွာ"

ဘိုးသာဘုန်းကြီးကျောင်းထိုင်တဲ့ အတိုင်း လုပ်ကြဖို့ ပြောလိုက်တော့မှ ကျောင်းဝင်းထဲမှာ မီးတွေလင်းထိန် သွားတော့တာပေါ့ဗျာ။

ခေါင်းရိုက်တဲ့သူကရိုက်၊ အလောင်းပြင်တဲ့ သူကပြင်ပေါ့လေ။

"ကိုကြီးတာတေရေ ခေါင်းရိုက်တဲ့ သူတွေကို မြန်မြန်သာ ရိုက်ခိုင်းဗျို့ ဒီမှာတော့ ချက်ချင်းကို ပုတ်စော်နံလာပြီဗျ"

တိုးလှက ကျုပ်ကို အော်ပြောတယ်။ ဟုတ်ပါဗျ။ ပုတ်ထွက်သွားတာနဲ့ ချက်ချင်းကို ပုတ်လာတော့တာပဲဗျို့။

ကျုပ်လည်း ခေါင်းစပ်တဲ့သူတွေကို အကြမ်းပဲ မြန်မြန်ရိုက်ခိုင်းပြီး၊ မယ်တော်ကြီးအလောင်းကို ခေါင်းမြန်မြန်သွင်းပြီး ကွင်းထဲထမ်းထုတ်ကြရတာပေါ့ဗျာ။

ကွင်းထဲရောက်တော့ ပုတ်လိုက်တာ မပြောပါနဲ့တော့ဗျာ။ ကျုပ် တို့လည်း အသုဘကို ကွင်းထဲမှာ မြင်ပြီး ထားခဲ့ကြရတာပေါ့။

မနက်မိုးလင်းတော့မှ ရွာသားတွေလည်း ဟင်းခနဲ သက်ပြင်းချနိုင်ကြတော့တာပေါ့ဗျာ။ တစ်ရွာလုံးလည်း တစ်ညလုံး မအိပ်ကြရဘူးလေ၊ ကြောက်နေကြတာပေါ့ဗျာ။ ခွေးကအစ ကြောက်ကြတာ မဟုတ်လား။

နောက်နေ့ဆို စောစောပဲ။ မယ်တော်ကြီးကို သင်္ဂြိုဟ်ကြရတော့ပေါ့။

အဲဒီညက ဖုတ်ထုတ်တဲ့နေရာမှာ ကျုပ်ပါတာ အားလုံးသိကြပါတယ်ဗျာ၊ ခင်ဗျားတစ်ယောက်တည်းသိတာ မဟုတ်ပါဘူး။

တာတေ



## ဖဲသမားစကား

အစကတည်းက တာတေပြောခဲ့ပါတယ်။

တာတေကလူစုံပါလို့။ ကိုပေသီးလို ပရောဂဆရာတွေနဲ့လည်း တွဲခဲ့ဖူးတယ်။ ဘိန်းစားဘစိန်လို ဘိန်းစားတွေနဲ့လည်း တာတေ တွဲခဲ့ဘူးတယ်။ အခုဒီလိုပဲ ကိုအောင်ချစ်တို့လို အရပ်တကာ လှည့်ပြီး ဖဲချနေတဲ့ ဖဲသမားအကြီးစားကြီးတွေနဲ့လည်း ပေါင်းဖူးတာပါပဲ။ ကိုအောင်ချစ်ဆိုတဲ့လူက ကျုပ်တို့ ထနောင်းကုန်းကပါပဲ။ အသက်က လေးဆယ်လောက်ရှိပြီဗျ။ လူမိုက်ကြီးတစ်ယောက်ပဲ။ ကိုအောင်ချစ်မိဘတွေက လူချမ်းသာတွေလေ။ ပိုင်လိုက်တဲ့ယာတွေဆိုတာ နည်းပါဘူးဗျာ။ ထန်းတောတစ်တောကလည်း အမွေရထားသေးဗျာ။ ကိုအောင်ချစ်တို့မှာ မောင်နှမသုံးယောက်ရှိတယ်။ ကိုအောင်ချစ်က အလတ်ဗျ။ အစ်မတစ်ယောက်နဲ့ ညီတစ်ယောက်ရှိတယ်။

သူ့ညီကိုအောင်သစ်ဆိုတာ လွှတ်အလုပ်လုပ်တဲ့လူဗျ။ ယာကိစ္စတွေဆိုရင် သူပဲတာဝန်ခံလုပ်နေတာ။ ကိုအောင်ချစ်ကတော့ အလတ်ဆိုတဲ့အတိုင်း လတ်နေတဲ့ လူမျိုး။ အလကားနေ လတ်ယားလတ်ယားလုပ်နေတာ။

ကိုအောင်ချစ်ရဲ့တစ်ခုတည်းသော ဝါသနာကတော့ ဖဲချတာပဲဗျို့။ ဖဲဝိုင်းရှိလို့ကတော့ ကိုအောင်ချစ်တို့က မသာခွနစ် အောင်ချစ် ရှစ်ရက်ဆိုတဲ့ လူမျိုးဗျ။ တစ်ခါတစ်လေ အနီးအနားရွာတွေမှာ အသုဘတွေဆက်နေလို့ ကိုအောင်ချစ်တစ်ယောက် ဖဲလှည့်ရိုက်ရတာ ရွာမှာနှစ်လလောက်တောင် ပျောက်နေတတ်တယ်ဗျ။

တစ်ခါတစ်လေကျတော့လည်း ကျုပ်ကိုအဖော်ခေါ်သွားတယ်။ ကျုပ်ကတော့ သူ့လိုမိုးတလင်းမနေနိုင်ဘူးဗျ။ အိပ်ချင်လာပြီဆိုရင် ဖဲဝိုင်းဘေးတင် ဗုညီးအိပ်လိုက်တော့တာပဲဗျို့။

တစ်ရက်တော့ ကျုပ်နွားစာစဉ်းနေတုံး ကိုအောင်ချစ်ကြီးပေါက်ချလာတယ်ဗျ။

"ဟာကောင် တာတေရ နားနားနေနေလုပ်လေကွာ၊ ပင်ပန်းနေပါဦးမယ်"

"ဟာ ကိုအောင်ချစ် ဘယ်က လှည့်လာတုံးဗျ"

"ဘယ်ကမှလှည့်လာတာမဟုတ်ပါဘူးကွာ။ မင်းဆီကိုပဲ လာခဲ့တာဝါ"

"ဟ လာလေကိုအောင်ချစ်၊ ဒီမှာထိုင်ဗျ။ ဒီဘက်မှာ ခုံရှိတယ်"

ကိုအောင်ချစ်က အသားညိုညို ထောင်ထောင်မောင်းမောင်း နှုတ်ခမ်းမွှေးလေးစိစိနဲ့ဗျ။ လူက လူပုံဖြောင့်။ ဒါပေမဲ့ နာမည်ကတော့ ဆိုးသွားလား ဖဲသမားအောင်ချစ်ဆိုရင် မသိတဲ့သူရှိတာမှ မဟုတ်တာ။

ရွာထဲမှာဆိုရင်လည်း

"အဲဒီကိစ္စဘယ်သူပြောတာတုံးကွ"

"ကိုအောင်ချစ်ပြောတာဗျ"

"အောင်ချစ်၊ ဘယ်အောင်ချစ်လဲ။ ဖဲသမားအောင်ချစ်လား၊ မင်းကွဲ ဖဲသမားစကားများယုံလို့၊ ဖဲသမားစကားဆိုတာ နဲ့သမားပါးစပ် လိုပဲကွ ပိန်လိုက်ဖောင်းလိုက်နဲ့၊ ဒွေ့ဖူးတယ်မို့လား၊ ပိုပြောလိုက်၊ လျော့ပြောလိုက်ကွ"

ကိုအောင်ချစ်တို့က ရွာမှာ အဲဒီလိုကို ကျော်ကြားတာဗျ။ လူချမ်းသာသားဆိုပေမဲ့ သူ့ကိုဘယ်သူမှလေးစားတာ မဟုတ်ဘူး။ ဖဲသမားအောင်ချစ်လို့ပဲ ခေါ်ကြတာ။

ကျုပ်က နဂါးဆေးပေါ့လိပ်တစ်လိပ်ကို မီးညှိပြီး ကိုအောင်ချစ်ကို ဆေးလိပ်တည်တယ်။ ကိုအောင်ချစ်က စဉ်းခုံဘေးက သစ်သား ကုလားထိုင်မှာ အကျအနထိုင်ပြီး နဂါးဆေးပေါ့လိပ်ကို အားရပါးရ ဖွာတယ်ဗျ။

ကျုပ်ကတော့ ကွမ်းစာကိုဆက်ပြီး စဉ်းရတာပေါ့ဗျာ။ "မင်း ပြောင်းရိုးတွေ ဘယ်ကောင်းမလဲဟ။ ဒါ တောင်ဖက် အခင်းကလား"

"ဟုတ်တယ်ဗျ တောင်ဖက်အခင်းက ပြောင်းတွေ ရိတ်လာတာလေ။ ဒီနှစ်တော့ ကွမ်းစာမပူရတော့ဘူးဗျို့။ ပြောင်းတွေ လှတ်တောင်းတာပဲဗျ"

"အေး ဟုတ်တယ်ကွ ဒီနှစ်ပြောင်းတွေ တော်တော်ကောင်းတာ၊ အေး ကွမ်းစာ စိတ်အေးရတာပေါ့ကွာ"

"နေပါဦးကိုအောင်ချစ်ရဲ့ ကျုပ်သိလာတာ ကိစ္စများရှိနေလို့လား"

"အေး ... ရှိတယ်ကွ တာတော့ရ"

"ပြောလေ ကိုအောင်ချစ်"

"ဒီလိုကွ အနောက်က မီးလောင်ကုန်းရွာမှာ အသုဘရှိတယ်လေ"

"ဒါများအဆန်းလုပ်လို့ ကိုအောင်ချစ်ရာ"

"ဟဲ ဟဲ ဟဲ ဆန်းတော့ မဆန်းပါဘူးကွာ။ ဒါပေမဲ့ ခါတိုင်းနဲ့တော့ ကွာနေတယ်ကွ"

"ဟင် ဘာများကွာနေလို့တုံးဗျ"

"မီးလောင်ကုန်းက တာရုတ်ဆိုင်ကြီးကို မင်းသိတယ်မို့လား"

"ဟာ...သိတာပေါ့ ဦးအမိန်းဆိုတဲ့ တာရုတ်ကြီးရဲ့ဆိုင်လေဗျာ၊ ဆိုင်ကြီးကို ဟီးနေတာပဲလေ"

"အေး အမိန်းကြီး ဆုံးသွားပြီကွ"

"ဟာ... ဟုတ်လား ကိုအောင်ချစ်"

"အေး အဲဒီအသုဘကို ရန်ကုန်က အမိန်းရဲ့ညီတွေ၊ တူတွေ ရောက်နေတယ်။ သူဌေးတွေက အားလုံးဖဲချကြတယ်။ အဲဒါပွဲကြီး ပွဲကောင်းဖြစ်မယ်ကွ။

"အော် ဒီလိုလား။ ဒါထက် ကျုပ်ကြားတာ ဟုတ်လားဗျ"

"ဘာတုံးကွ တာတေရဲ့"

"ခုတလော ကိုအောင်ချစ် ဖဲသိပ်မလိုက်ဘူးဆို၊ ဖဲချတိုင်း ရှုံးနေတယ်ကြားလို့"

"ဖဲသမားဖဲ တာတေရာ ရှုံးတဲ့အခါ ရှုံး၊ နိုင်တဲ့အခါ နိုင်မှာပေါ့ကွဲ"

"ရန်ကုန်ကတာရုတ်တွေကို ခင်ဗျားယှဉ်နိုင်ပါ့မလားလို့ပါ"

"မပူပါနဲ့ကွာ၊ ငါ့မှာနည်းလမ်းတွေ အများကြီးရှိပါတယ်"

"အဲဒီတော့ ကိုအောင်ချစ်က ကျုပ်ကိုခေါ်သွားချင်လို့လား"

"အေးလေကွာ ညကျရင် မင်းနဲ့ငါ မီးလောင်ကုန်းကို သွားမယ်လေကွာ"

"အိုလုပ်လေဗျာ တာတေက ဒါမျိုးဆိုလိုက်ပြီးသားပဲဗျ"

"ဒါဆိုရင် မိုးချုပ်စကိုသွားကြတာပေါ့၊ ငါက ခဲမယ်လို့ မီးလောင်ကုန်းက ကောင်တွေကို မှာထားတယ်။

"စိတ်ချ ကျုပ်အဆင်သင့်စောင့်နေမယ်။ ကိုအောင်ချစ် အိမ်ကိုပဲလာခေါ်ပေါ့"

"အေးပါ ငါ မင်းကိုလာခေါ်ပါ့မယ်"

ပြောပြောဆိုဆို ကိုအောင်ချစ် ထပြန်သွားတယ်။ ကျုပ်လည်း နွားစာတွေပြီးအောင် ဆက်စဉ်းရတော့တာပေါ့ဗျာ။ အမေနဲ့ အဘကိုလည်း ကြိုပြောထားလိုက်တယ်။

"တာတေရေ သွားစို့ဟေ့"

ညမိုးချုပ်ပြီး သိပ်မကြာခင်မှာပဲ ကိုအောင်ချစ်ကြီးရောက် လာတယ်။

"ထိုင်ဦးလေ ကိုအောင်ချစ်"

"ဟဲ့ အောင်ချစ် ထိုင်ဦးလေဟဲ့"

အမေကပါ ကိုအောင်ချစ်ကို လှမ်းခေါ်တယ်။ ကိုအောင်ချစ်က တော့ အိမ်ပေါ်မတက်တော့ပါဘူး။

"မတက်တော့ဘူး အရီးငွေစိန်ရေ၊ တာတေကို ဒီကပဲ စောင့်တော့မယ်ဗျို့"

"အေးအေး ဒါဆိုလဲပြီးရော။ ဒါထက် မီးလောင်ကုန်းက အမိန်းဆုံးသွားပြီဆို တာတေပြောမှသိတာပေါ့"

"ဟုတ်တယ် အရီးရဲ့၊ အမိန်းကြီးဆုံးပြီ ကျုပ်တို့ အခု အဲဒီကို သွားမှာ"

"အေးပါ တာတေပြောပါတယ် ရန်တွေဘာတွေ မဖြစ်ကြနဲ့နော်"

"စိတ်ချပါ အရီး စိတ်ချပါ"

ကျုပ် အိမ်ပေါ်က ဆင်းလာတော့ ကိုအောင်ချစ်က လက်ထဲမှာ အထုပ်တစ်ထုပ်ဆွဲပြီး စောင့်နေတယ်။

ကျုပ်တို့နှစ်ယောက် မြောက်တံခါးကထွက်ပြီး အနောက်ဘက်ကို လာခဲ့တယ်။

"လက်ထဲက ဘာထုပ်တုံး ကိုအောင်ချစ်ရဲ့"

"ဟဲ ဟဲ မဖဲဝါအတွက်လေကွာ"

"ဗျာ မဖဲဝါအတွက်"

"အေးလေကွာ ဒီည ငါ စီးပွားဖြစ်ရိုက်မှာကွ။ ဒီတော့ ငါ အစွမ်းတစ်ခုတည်းနဲ့တော့ ဘယ်ဖြစ်မလဲကွာ၊ မဖဲဝါ အကူအညီ ယူရမှာပေါ့"

"ဟာ ဒါဆိုရင် အခုဘယ်ကိုသွားမှာတုံး"

"မီးလောင်ကုန်း သင်္ချိုင်းကို အရင်ဝင်မယ်လေကွာ၊ အဲဒီမှာ မဖဲဝါကို ဒီခေါက်ဆွဲကျော် ဝင်ကျွေးမယ်လေ၊ ပြီးတော့ မဖဲဝါနဲ့ အပေး အယူလုပ်ရမှာပေါ့"

"ဒီခေါက်ဆွဲကြော်က အပိန်ဆိုင်ကလား"

"အေးပေါ့ကွ တာတေရ အပိန့်ခေါက်ဆွဲကြော်ပေါ့။ ရွာမှာက အပိန်ကလွဲရင် ဘယ်သူရှိသေးလို့တုံး"

"ဟုတ်ပါဘူးဗျာ ဟိုတစ်လောက အပိန် ဆိုင်ပိတ်ထားတယ် ကြားလို့ပါ"

"အေး ဟုတ်တယ်ကွ၊ အခုမှ ပြန်ဖွင့်တာ သူ့အဒေါ်နေမကောင်း လို့ မြို့သွားပြီး သတင်းမေးတာဆိုလားပဲ"

ကျုပ်ကတော့ ကျောထဲမှာကို စိမ့်ခနဲဖြစ်သွားတာပျို့။

"ကိုအောင်ချစ်ရယ်၊ ခင်ဗျားအရင်က ဒါမျိုးတွေလုပ်ဖူးလို့လား ဗျာ"

"ဘာလဲ၊ မဲပေါ်ကိစ္စလား"

"အေးလေဗျာ၊ ကိုယ်ဟာကိုယ်လုပ်ပါဗျာ၊ ခင်ဗျားမှာ နိုင်မဲ့ကံ ရှိရင် နိုင်မှာပါ ကိုအောင်ချစ်ရာ"

"ဟ တာတေရ အောင်ချစ်ဆိုတဲ့ ကောင်က ကံသမားမဟုတ်ဘူး ကွ၊ ဉာဏ်သမားကွ၊ ဉာဏ်သမား ဉာဏ်သမားမို့လို့ ဖဲချတာပေါ့ကွ၊ ဖဲဆိုတာ ဉာဏ်သမားတွေရဲ့ အလုပ်လေကွာ။ ဖဲသမားတစ်ယောက် ဖဲနိုင်ဖို့ဆိုရင် ဘာမဆိုလုပ်မှာပဲကွ တာတေရ၊ ဘာလဲ မင်းက မဲပေါ်ကို ကြောက်နေလို့လား"

"ဟာ ဒီလိုတော့ မဟုတ်ပါဘူးဗျာ"

"ဒါဆိုပြီးရောပေါ့ကွ။ ဟော ပြောရင်းဆိုရင်းနဲ့ မီးလောင်ကုန်း သုသာန်တောင် ရောက်ပြီကွ။ လာကွာ နေရာကောင်းကလေး ရှာလိုက်ရအောင်၊ ဟော တွေ့ပြီကွ ဟိုရှေ့က သူကြီးဦးသူတော်ရဲ့ အုတ်ဂူပေါ်မှာ ကျေးတာပေါ့ကွာ"

ပြောပြောဆိုဆိုနဲ့ ကိုအောင်ချစ်က အပိန်ဆိုင်ကဝယ်လာတဲ့ ခေါက်ဆွဲကြော်ထုပ်ကို ဖြေတယ်။ တောခလေ့ဆိုတော့ ခေါက်ဆွဲကြော်ကို ငှက်ပျောဖက်နဲ့ ထုတ်ထားတာပေါ့ဗျာ၊ ပူပူနွေးနွေးရှိပါသေးတယ်။

ကိုအောင်ချစ်က ခေါက်ဆွဲကြော်ထုပ်ကို သေသေချာချာ ပြင်လိုက်ပြီးတော့ ရေပုလင်းကို ဖွင့်ချထားလိုက်တယ်။

"သချိုင်းစောင့်ကြီး မဖဲဝါ၊ ရောက်ရာအရပ်က ဒီကိုအမြန်လာပါ။ ကျုပ်က မိတ်မန္တက ပြုပါတယ်။ အနီးအနားမှာ ရှိတဲ့ နာနာဘာဝ အပေါင်းကလည်း မဖဲဝါကို အမြန်ဆုံးအကြောင်းကြားပေးကြပါ၊ ကျုပ်က မဖဲဝါကို ခေါက်ဆွဲကြော်နဲ့ တင်မြှောက်ပါတယ်လို့"

ကိုအောင်ချစ်က ခေါင်းကြီးမော့ပြီး ဟိုကြည့်သည်ကြည့် လုပ်ပြီး ပြောနေတာဗျ။ ကျုပ် ဂူပေါ်က ခေါက်ဆွဲကြော်ထုပ်ကို ကြည့်နေတာ။

"ဟာ"

ကျုပ် ယောင်ပြီး အော်လိုက်မိတယ်။ ခေါက်ဆွဲကြော်တွေ ပြိုက်ခနဲ ပြိုက်ခနဲ လျော့သွားနေတာဗျ။

"ဟကောင် တာတေဘာလို့ အော်တာလဲ"

"ကိုအောင်ချစ် ခင်ဗျားခေါက်ဆွဲကြော်တွေ ကြည့်ပါဦး"

"ဟေ ဟုတ်သားပဲ၊ ဟာ မဖဲဝါစားနေပြီဟေ့"

ကိုအောင်ချစ်က လက်ဝါးနှစ်ဖက်ကို ပွတ်ရင်းပြုံးပြုံးကြီး လုပ်နေတယ်ဗျ၊ ဝမ်းသာအားရ ဖြစ်နေတဲ့ပုံပဲ။

"မဖဲဝါ ကျုပ် ဒီည မီးလောင်ကုန်းက တရုတ်အမိန်းရဲ့ အ

သူဘာမှာ ဖဲချမ်းလို့ဗျ။ ရန်ကုန်ကသူဌေးတွေနဲ့ ချရမှာ။ ကျုပ်ကို တစ်ပိုင်းလုံး ရှိသမျှငွေတွေ သိမ်းကျုံးယူနိုင်အောင် လုပ်ပေးပါ။ ကျုပ် မဖဲဝါကို အမဲသားသုံးပိဿာ ချက်ကျွေးပါ့မယ်၊ ကျုပ်ကို နိုင်အောင်သာ လုပ်ပေး၊ ဟောဒီဂူပေါ်မှာကို အခုလိုလာကျွေးမှာ ဒီကောင် တာတေသက်သေဗျာ"

အုရှား အုရှား၊ သူ့ဟာသူပြောတာ မဟုတ်ဘူးဗျာ၊ ကျုပ်နာမည်ကို ထည့်ပြောလိုက်တယ်။ ဆော်တော်ဆိုးတဲ့ ကိုအောင်ချစ် ကျုပ် ကြည့်နေတုန်းမှာပဲ ခေါက်ဆွဲကြော်တွေ ကုန်သွားပါရောလား။ ဘယ် ရောက်သွားသလဲဆိုတာတော့ ကျုပ်လည်း မသိဘူးဗျ။

"ဟာ ရေတွေပါကုန်ပြီဗျ"

"အေးကွ၊ မဖဲဝါလည်း ဆာနေပုံရတယ်။ ဟုတ်ပြီ မဖဲဝါ ကျုပ်ကိုသာ ကျုပ်ပြောသလိုဖြစ်အောင် လုပ်ပေး ကျုပ်အမဲသား သုံးပိဿာတိတိချက်ပြီး လာကျွေးမယ်"

ကိုအောင်ချစ်က လက်သုံးချောင်းထောင် ထောင်ပြလိုက်သေး တယ်ဗျ"

အားလုံးကျွေးမွေးပြောဆိုပြီးတော့ ကျုပ်နဲ့ ကိုအောင်ချစ် မီးလောင် ကုန်းရွာထဲကို ဝင်ခဲ့တယ်ဗျ။ တရုတ်အမိန်းက ရွာလယ်ပိုင်းမှာ နေတာဆိုတော့ ကျုပ်တို့နှစ်ယောက် ရွာလယ်ကိုလာခဲ့ကြတယ်။

အသုဘအိမ်က အောက်လင်းဓာတ်မီးတွေထွန်းထားတယ်ဗျ။ လင်းထိန်နေတာပဲ မနက်ဖြန်အသုဘချမှာဆိုတော့ လူတွေချက်ပြုတ် နေကြတယ်။

"ဟာ ကိုအောင်ချစ်လားဗျ" မီးလောင်ကုန်းက တာလသားခေါင်းဖိုးချွန်းဆိုတဲ့ ကောင်က ကိုအောင်ချစ်ကို ခရီးဦးကြိုလိုက်တယ်။

"ဟော ဒါကျုပ်ပြောတဲ့ ကိုအောင်ချစ်ပါပဲဗျာ၊ ထံနောင်းကုန်းက လူချမ်းသာသား ဖဝိဇ္ဇာအောင်ချစ်ပေါ့ဗျာ"

"ဟာ ဖဝိဇ္ဇာလား ကောင်းတာပေါ့။ ဝလိုလည်း ဖဝိဇ္ဇာတွေပါပဲ၊ ဟဲ ဟဲ ပျော်စရာကောင်းလာပေါ့။ ဒါထက် ပိုက်ဆံလော့ များများပါလယ်နော်၊ ဟဲ ဟဲ ဟဲ"

"ဟာ ထောင်ကဲရာ ပါပါတယ်။ ဒါပေမဲ့ကျုပ်က ပိုက်ဆံထက် ဂုန်နီအိတ်ကို ဂရုစိုက်ယူလာရတာဗျ"

"အလို ဂုန်နီအိတ် ဟုတ်စ ဂုန်နီအတ်က ဘာလုပ်ဖို့တုံး"

"ထောင်ကဲတို့ဆီက ကျုပ်နိုင်မဲ့ ငွေတွေ၊ ပိုက်ဆံတွေထည့်ရအောင်လေ"

"အော် စီလိုလား ဟဲဟဲ၊ ဖဲ ဝိ ဇာ က ရယ် စရာ လဲ အပြောကောင်းလာပဲ ဟဲ ဟဲ ပျော်ပျော်ပါးပါးပေါ့။

ခဏကြာတော့ ဖဝိုင်းစပြီ၊ ကိုအောင်ချစ်နဲ့ မြို့ပေါ်ကတရုတ်တွေ ပွဲစပြီပေါ့။ ကျုပ်ကကိုအောင်ချစ်နောက်မှာ ဖြောရမှာ အုံ့သြစရာပါဗျား စတဲ့အလှည့်ကစပြီး ကိုအောင်ချစ် နိုင်တာ သိသိသာသာကြီးကို ဖြစ်တာပါဗျာ။ အခြားတစ်ယောက် တစ်လှည့်နိုင်ရင် ကျုပ်မပြောဘူး။ အခုဟာက အလှည့်တိုင်း ကိုအောင်ချစ် နိုင်တာဗျ။ ဘယ်သူမှ တစ်လှည့်တောင် မနိုင်ဘူး။

ထောင်ကဲကြီးတွေ အံ့သြပြီးတစ်ယောက်မျက်နှာ တစ်ယောက် ကြည့်ကုန်ကြတဲ့အထိကို ဖြစ်တာဗျို့။

တရုတ်တွေ ဒေါသဖြစ်လာတော့ ပိုမဲတာပေါ့ဗျာ။ ငွေတွေဆို တာ ပြောမနေပါနဲ့တော့ဗျာ။ ဖွေးနေအောင့်တာပေါ့။ သေချာပေါက် နိုင်ပြီထင်တဲ့အကွက်ညီပါ။ ထောင်ကဲတွေ ဖိထိုးတာပေါ့ဗျာ။ နောက်ဆုံး ကျုပ်လူကိုအောင်ချစ်ပဲ နိုင်တာဗျို့။

မဖဲဝါလုပ်ပေးနေတယ်ဆိုတာ သေချာလိုက်တာမှဗျာ။ တဖြေး ဖြေးနဲ့ ညဦးနက်၊ ညဉ့်နက်ရာက သန်းခေါင်ကျော်၊ သန်းခေါင်ကျော်ရာ ကနေ အာရုဏ်။ ဝိုင်းထဲက ရှိသမျှငွေတွေ ကျုပ်တို့ အိတ်ကြီးထဲမှာ ချည်းဗျ။ ကိုအောင်ချစ်ပြောသလို ဂုန်နီအိတ်သာ ကျုပ်တို့မှာ မပါပါ ဘူး။ ဒါပေမဲ့ ဖိုးချွန်းကို ဂုန်အိတ်တစ်အိတ်တော့ ရှာခိုင်းလိုက်ရတယ် ဗျို့။ မိုးလင်းတော့ ဝိုင်းသိမ်းပြီး ရွှံ့အိတ်ကိုဖိသိပ်ပြီး ကြိုးနဲ့စည်းခဲ့ရ တာဗျို့။

အပြန်လမ်းမှာ ကျုပ်က ကိုအောင်ချစ်ကို ပြောတယ်။ "ကိုအောင် ချစ်ရေ့ခင်ဗျားကို မဖဲဝါလုပ်ပေးတာကတော့ အသိသာချည်းပါဗျာ။ ခင်ဗျားပြောတဲ့ ကတိအတိုင်း အမဲသားဝယ်ဖို့ လုပ်ပေတော့ဗျို့"

"အေး လုပ်ရမှာပေါ့ကွာ၊ ရွာရောက်မှပဲ အိမ်ကအလုပ်သမား တစ်ယောက်ကို မြို့တက်ပြီး အမဲသားဝယ်ခိုင်းရမှာပဲ တာတေရေ"

"ကောင်းတယ် သေသေချာချာလုပ်ဗျာ။ ညကျတော့ သွားတွေ့ လိုက်ပေါ့"

"အေးလေ့ မင်းပါလိုက်ခဲ့ပေါ့"

"ဟာ လိုက်မှာပေါ့ဗျ"

ညရောက်တော့ ကိုအောင်ချစ်ရောက်လာတယ်။

"တာတေရေ သွားစို့ဟေ့"

ကျုပ်ကလည်း အဆင်သင့်စောင့်နေတာဆိုတော့ ချက်ချင်းထပြီး ဝိုင်းထဲက ထွက်လာခဲ့တာပေါ့ဗျာ။ လမ်းရောက်တော့ ကိုအောင်ချစ် လက်မှာ ဘာမှမတွေ့တော့ ကျုပ်အံ့ဩသွားတယ်။

“ဟာ ကိုအောင်ချစ် ဘယ်မှာတုံး ခင်ဗျား အမဲသား”

“ဟာကွာ ငါတို့ယာမှာလုပ်တဲ့ ဇာက်ပွားဆိုတဲ့ကောင်ကို မြို့ လွှတ်ပြီး အမဲသားဝယ်ခိုင်းလိုက်တာ မရခဲ့ဘူးကွ။ သူသွားတော့ နောက်ကျသွားလို့တဲ့။ အမဲသားကုန်သွားလို့ ပြောတာပဲကွာ”

“ဟာ ဒါဆိုရင် ခင်ဗျား ဘယ်လိုလုပ်မလဲ။ မဖဲဝါ ကိစ္စကို”

“ဟာကွာ တာတေကလည်း ကြောက်တတိလိုက်တာလွန်ရော ကွာ ဒီနေ့မရတော့ နောက်နေ့ကျေးမှာပေါ့ကွာ။ စားချင်ရင်စောင့် ပေါ့ကွ”

“ဟာ ခင်ဗျားဟာက မဟုတ်သေးပါဘူးဗျာ”

မဖဲဝါက သူ့ကတိအတိုင်း ခင်ဗျားကို လုပ်ပေးခဲ့ပြီးပြီလေဗျာ။ ခင်ဗျားဘက်ကလည်း စကားတည်မှပေါ့ဗျ”

“ဟကောင် တာတေ ငါညက တစ်ညလုံးဖဲနိုင်တာကို မင်းက မဖဲဝါအစွမ်းချည်းထင်နေတာ၊ ငါ့အစွမ်းလည်း အများကြီးပါတယ်ကွ၊ ငါ့ခေါင်းတွေလည်း ထူပူနေအောင်စဉ်းစားရတာကွ”

“ဟာ မဟုတ်သေးပါဘူးကိုအောင်ချစ်ရာ။ ခင်ဗျားအစွမ်းမပါ ဘူးဘို့ကျုပ်မပြောပါဘူး။ ဖဲဝိုင်းပဲဗျာ တစ်လှည့်စီတော့ နိုင်ကြမှာပေါ့။ အခုဟာက ခင်ဗျားချည်းနိုင်တာဆိုတော့ ခင်ဗျားအစွမ်း မဟုတ်ဘူးလို့ ကျုပ်ထင်တယ်ဗျာ။

"ဟား ဟား မင်း ဒါဆို ဒီညတြည့်လိုက် ဘယ်သူ့အစွမ်းလည်း မင်းသိစေရမယ်"

ကျုပ်ကတော့ စကားကိုမလေးစားတဲ့ ကိုအောင်ချစ်ကို တော်တော် စိတ်ပျက်သွားမိတာ အမှန်ပဲဗျာ။ ဖဲနိုင်ချင်တော့ မဖဲဝါနဲ့ အပေးအယူ လုပ်တယ်။ တကယ်နိုင်တော့ သူ့စွမ်းလို့ နိုင်သလိုပြောတယ်။ တ ကယ်ကို ဖဲသမားစကားပါပဲဗျာ။

အမိန်းတို့အိမ်ကိုရောက်တော့ တရုတ်တွေက ကိုအောင်ချစ်ကို စောင့်နေကြတယ်ဗျ။ ညကအဖြစ်အပျက်ကိုတော့ သိပ်ကျေနပ်ကြပုံ မပေါ်ဘူး။ ကျုပ်လူကိုအောင်ချစ်ကတော့ အောင်ပွဲရစစ်သူကြီး ပုံစံနဲ့ပေါ့ဗျာ။

ခဏလောက်စကားစမြည် ပြောဆိုကြပြီးတော့ ဖဲဝိုင်းစပြီး ဆင်တော့တာပဲဗျို့။ ပွဲစပြီဗျို့ ပထမတစ်လှည့် ကိုအောင်ချစ်နိုင်တယ်။ တရုတ်တွေ မျက်နှာနည်းနည်း ပျက်သွားတယ်ဗျ။ ဒုတိယအလှည့် လည်း ကိုအောင်ချစ်ပဲ နိုင်ပြန်ရောဗျ။ ကိုအောင်ချစ်မျက်နှာကြီးက တော့ ပြုံးပြုံးကြီးပေါ့ဗျာ။

တတိယအလှည့်ရှုံးပြီဗျို့၊ ကိုအောင်ချစ်ရှုံးပြီ။ စတုတ္ထအလှည့် ရှုံးပြန်ပြီ၊ နောက်တစ်လှည့်ရှုံး၊ နောက်တစ်လှည့်ရှုံး၊ သန်းခေါင်ကျော် တော့ ကိုအောင်ချစ် ပါသမျှကုန်ပြီဗျို့။

ဒါပေမဲ့ ကိုအောင်ချစ်ကလည်း လူပါးဗျ ညကနိုင်ထားတာ ငွေ အကုန်လုံးပြန်ယူခဲ့တာမှ မဟုတ်တာ။ နည်းနည်းပဲ ပြန်ယူလာတာဗျ။

နောက်ဆုံးကိုအောင်ချစ် တင်းသွားပြီးတော့

"ဝိုင်းမဖျက်နဲ့ ကျုပ်နေရာမှာ တစ်ယောက်၊ ခဏဝင်ထား၊ ကျုပ်ရွာပြန်ပြီး ငွေတွေပြန်ယူခဲ့မယ်၊ ချက်ချင်းပြန်လာမယ်၊ မနက် ဖြန် တစ်နေ့လုံးဆက်ရိုက်မယ်"

တရုတ်တွေ လက်ခုပ်တီးပြီး ဩဘာပေးကြတယ်။

"ဖဲဆိုတာ စီလိုပါပဲ ဝိ၊ ဓာ ရယ်၊ ငွေတွေ ပြန်ယူမယ် ဆိုလော့ ကောင်းလာပေါ့၊ ဝလို့ ညက ရှုံးထားတဲ့ ပိုက်ဆံတွေ ပြန်ရလာပေါ့"

ကိုအောင်ချစ်တင်းသွားပြီး ချက်ချင်းကို ပြန်တာဗျို့။ အိမ်ပြင် ရောက်တော့

"တာတေ ခဏနေဦး၊ မီးလောင်ကုန်းအဖျားမှာ အရက်ဖိုရှိတယ် ကွ။ ငါ နည်းနည်းသောက်ချင်တယ်"

"လာပါဗျာ သောက်ချင်ရင်လည်း ကိုယ့်ရွာရောက်မှ သောက် စမ်းပါ။ ငမိုန်ကို အချိန်မရွှေ့နိုင်းလို့ရပါတယ်"

"ဟာ မနေနိုင်တော့ဘူးကွာ။ ငါ နည်းနည်းတော့သောက်မှ ဖြစ်မယ်ကွ"

တာကယ်ကို ဖွတ်တရွတ်လူဗျ။ မီးလောင်ကုန်းအဖျားကို တက် သွားတယ်။ ပြီးတော့ သူပြောတဲ့ အရက်ဖိုကလူကို အရက်တစ်ပုလင်း ရောင်းဖို့ပြောတယ်။

"ဟာ ကိုကြီးအောင်ချစ်ပါလား ရှော့ဗျား၊ ရှော့ဗျား ညက ကိုကြီးအောင်ချစ်နိုင်သွားတဲ့သတင်း ကျုပ်တို့အားလုံးကြားပါတယ်ဗျာ"

ကိုအောင်ချစ်ဝိုတင်းသွားတယ်။ ညကနိုင်တဲ့သတင်းကြားရင် ဒီညရှုံးတဲ့ သတင်းလည်း ကြားမှာပဲလေ။ ရှာပြင်ရောက်တော့ တမာပင်ကြီးအောက်မှာ ထိုင်ပြီး စောင့်တယ်ဗျ။ အမြီးမပါ ဘာမှမပါနဲ့။ ဒီအတိုင်းကို မောနေတာ။ တော်တော်ကြာလေးသောက်ပြီးမှ

"ကဲ တော်တော ရပြီဟေ့ လာ သွားစို့။ မင်းရှေ့ကသွား"

သွားစို့သာပြောတယ်။ ခြေထောက် သိပ်မမှန်ချင်ဘူးဗျ။ နည်းနည်းယိုင်ချင်နေပြီ ကျုပ်တို့ ထနောင်းကုန်းဘက်ကို ဦးတည်လိုက်ကြတယ်။ ဘယ်လိုသွားသွား မီးလောင်ကုန်းသင်္ချိုင်းထဲကို ဖြတ်ရမှာပဲလေ။

ကျုပ်ကရှေ့က ဦးဆောင်ပြီးသွားရတယ်။

"အလကားဟာမ အမဲသားမရလို့ မကျေးတာကို မကျေနပ်ဖူးထင်တယ် ဒီညပါသမျှပြန်ကုန်အောင်လုပ်တယ်၊ သောက်ကမြင်းမကြီး မဖဲဝါ"

"ဟာ ဟော့လူ ခင်ဗျားပါးစပ်ပိတ်ထား၊ ခင်ဗျား ဘာတွေပြောနေတာတုံး"

"ဟာ တာတေမင်းကလည်း ကြောက်တတ်လိုက်တာလွန်ရောကွာ၊ ဒီဟာမကြီးမဟုတ်တာလုပ်လို့ ငါပြောနေတာကွ။ ငါ့ကို ဒီလိုလုပ်စရာလား၊ အမဲသားမရလို့ မကျေးတာလေ ဘာဖြစ်သလဲ။ ငါ့ကိုဘာလုပ်လို့ရသလဲ။ ဟဲ့ကောင်မစုတ် မဖဲဝါ နင်က သူ့ရဲ့မ ငါကလူလေ နင်ဘာလုပ်လို့ရသလဲ"

ကိုအောင်ချစ်က ကျုပ်ပြောပေမဲ့ မရဘူးဗျ။ အကျိုးရင်းကြီး

နဲ့ဗျ၊ ပုဆိုးကြီးကလည်း တိုတိုကြီးစီးထားသေးရဲ့။ မတ်တပ်ရပ်ပြီး အရပ်ပုလင်းကို မော့နေပြန်တယ်ဗျို့။ ကျုပ်လည်း တော်တော်ကို စိတ်ကုန်သွားတာဗျာ ညကနိုင်တုံးကတော့ မျက်နှာကြာတစ်မျိုးဗျ။ ဒီည ရှုံးတော့ကျတော့ မူးရူးလို့။ လောကမှာ အရှုံးဒဏ်မခံနိုင်တဲ့လူဟာ ယောကျ်ားပီသတဲ့လူ မဟုတ်ဘူးလို့ ကျုပ်ထင်တယ်။

"ကိုအောင်ချစ်လာပါဗျာ ရွာရောက်မှပဲ ခင်ဗျားကြိုက်သလောက် သောက်ဗျာ"

ကျုပ်ပြောတော့ အရက်ပုလင်းကို အဖုံးပိတ်ပြီး ဆက်လျှောက် ပြန်တယ်။ ရောက်ပြီ။ မီးလောင်ကုန်းသုသာန်ကိုရောက်ပြီ။ ကျုပ်က ရှေ့ကခပ်သုတ်သုတ်လျှောက်တယ်။ သူကြီးဦးသူတော်ရဲ့ ဂူ။ မနေ့က မဖဲဝါတင်မြှောက်တဲ့ဂူရှေ့ကို ရောက်တော့ ကျုပ်က ပိုပြီး ခပ်သုတ်သုတ် လျှောက်တယ်။

"တာတေ ဒီဂူမို့လား။ မနေ့က ငါတို့ဒီကောင်မကြီးကို တင် မြှောက်တာ ခေါက်ဆွဲကြော်တွေစားသွားတာလေ။ ဒီနေ့အမဲသားမဟေး ရတော့ ငါ့ကို ရှုံးအောင်လုပ်တယ်။ ဟင် မဖဲဝါ နင်ဘာကောင်မ လဲ၊ အောင်ချစ်ကို နင်ဘာလုပ်လို့ရမှာမို့လဲ၊ ငါက လူလေ။ သူ့ရဲ့မရဲ့ ဟား ဟား ဟား"

"ဘုန်း အင့်"

"ဟာ"

ကျုပ်သွားနေတဲ့ ခြေလှမ်းတွေ တုန့်ခနဲရပ်သွားတယ်။ ချက်ခြင်း နောက်ကိုလှည့်ကြည့်မိတယ်။ ကိုအောင်ချစ်ကြီး လက်ထဲက အရပ်

ပုလင်းလွတ်ကျသွားတယ်။ ကျောကြီးကော့ပြီး ခေါင်းကြီးက အပေါ် လန်နေတယ်ဗျ။

"ဘုန်း"

ဟာ နောက်တစ်ချက်။

"အင့်"

ကိုအောင်ချစ် မရိုမဆန့်အော်တဲ့ အသံကြီးဗျ။ ဟာ သွေးတွေဗျာ၊ ကိုအောင်ချစ်ပါးစပ်က စီးကြလာတဲ့သွေးတွေဗျ။ ကိုအောင်ချစ် ဒူးထောက်ကျသွားတယ်။ အင်္ကျီတစ်ရင်ဘတ်ဟကွဲနဲ့ ပါးစပ်ထဲက သွေးတွေစီးကျနေတယ်။ မျက်လုံးကြီးတွေပြူးထွက်နေတာမြင်လို့ကို မကောင်းပါဘူးဗျာ။

ကျုပ်ကရှေ့တော်တော်လှမ်းလှမ်းကို ရောက်နေပြီဗျ။ ချက်ချင်း ပြန်ပြေးမယ်အလုပ်မှာ။

"တာတော်... ပြေး"

ကိုအောင်ချစ်ပါးစပ်က နောက်ဆုံးထွက်လာတဲ့ အသံနဲ့ကြီးဗျ။ ဒီတုံးမှာ ကိုအောင်ချစ်နောက်ကနေ ဘွားခနဲပေါ်လာတဲ့ ဖြူဖြူကြီးဗျ။ အရပ်ရှစ်ပေကိုးပေတော့ အသာကလေးပဲ။ ဆံပင်ဖားလျားကြီးနဲ့

"ဟာ"

ကျုပ်ပြေးပြီ တစ်ချိုးတည်းပဲ။ နောက်ကိုလှည့်ကိုမကြည့်တော့ဘူး။ မီးလောင်ကုန်းသုသာန်ပြီးတော့၊ ဆဝ်သမြောင်လျှိုပြီးတော့ ယာကြီးကုန်း။ ပြီးတော့ သဲချောင်းပြီးတော့မှ ကျုပ်တို့ရွာထနောင်းကုန်းရွာရောက်တော့ ကျုပ် သတိလစ်ပြီး ခွေခနဲလဲကျသွားတယ်၊

ကျုပ်နားထဲမှာ ဆူညံဆူညံ အသံတွေကို မသဲမကွဲကြားရ တယ်ဗျ။ ခဏပါပဲ။ နောက်တော့ အားလုံးလစ်ထွက်သွားကာ။

ကျုပ် သတိရတော့ ကျုပ်တို့အိမ်ဝိုင်းထဲ ပြန်ရောက်နေပြီဗျ။ အိမ်ထောင့်က မန်ကျည်းပင်ကြီးအောက်က ကွပ်ပျစ်ပေါ်မှာ ကျုပ်ကို နှာနှပ်တဲ့သူက နှပ်နေလေရဲ့။ ဒီအထဲမှာ ကိုအောင်ချစ်ရဲ့ ညီကိုအောင်သစ်လည်းပါတယ်ဗျ။ ကျုပ်ကောင်းကောင်း သတိရတော့မှ ဝိုင်းမေးကြတယ်။ ကျုပ်ကလည်း ဖြစ်သမျှတွေကို အားလုံးပြောပြလိုက်တယ်။

"ဟာ ကိုအောင်ချစ်ပေါက်ကရတွေ လျှောက်လုပ်တာကို နင်က မတားဘူးလား၊ တာတေ"

ကျုပ်အမေကတောင် ကျုပ်ကို အပြစ်ပြောတာဗျ။ ချက်ခြင်းပဲ ရွာထဲမှာ လူစုကြတယ်။ ည(၂)နာရီ ထိုးနေပြီဗျ။ ဓာတ်မီးတွေ၊ ဒုတ်တွေ၊ ဓားတွေနဲ့ ရွာပြင်ထွက်တယ်။ ကျုပ်ကလမ်းပြပေါ့ဗျာ။ မီးသောင်ကုန်းကိုရောက်တော့ မီးသောင်ကုန်းရွာသားတွေကလည်း အလန့်တကြား ထွက်လာကြတာပေါ့။

"ဟဲ့ ဘယ်သူတွေတုံး၊ ဘာဖြစ်ကြတာတုံး"

ကျုပ်က အဖြစ်အပျက်တွေ ပြောပြတော့ သူတို့ရွာသားတွေပါ ထွက်လိုက်ကြတယ်ဗျ။ မီးသောင်ကုန်း သုသာန်ရောက်တော့ သူကြီးဦးသူတော်ရဲ့ ဂူနားမှာ မှောက်ခုံကြီးလဲကြနေတဲ့ ကိုအောင်ချစ်ကြီးကို အလောင်းပဲတွေ့ကြရတော့တာပေါ့ဗျာ။

အသက်မရှိတဲ့ ကိုအောင်ချစ်ခန္ဓာကိုယ်ကြီးက မှောက်ခုန်ကြီး

သေနေတာဗျ။ ခါဟ်မီးနဲ့ ဝိုင်းထိုးကြည့်ကြတာပေါ့။ အလောင်းကို ကိုအောင်သစ်နဲ့ ကျုပ်နဲ့ ဆွဲလှန်လိုက်တော့၊

"အောင်မယ်လေး"

မကြောက်တတ်၊ မလန့်တတ်တဲ့ ထနောင်းကုန်းက လူငယ်တွေ တောင် လန့်အော်ကြတယ်ဗျို့။

ကိုအောင်ချစ်အလောင်းမှာ မျက်စိကြီးတွေ အပြင်ကို ပြူးထွက် နေပြီးတော့ ပါးစပ်ကြီးကလည်း ဟနေတာယ်ဗျ။ ဇီဝဒနာကို မချိမဆန့် ခံစားပြီး သေသွားရတာက သူ့မျက်နှာမှာ အထင်းသား ပေါ်နေတယ် ဗျ။

အလောင်းကိုတစ်ခါ မှောက်ပြီး ကျောကုန်းကိုကြည့်လိုက်တော့ "ဟာ"

ကြည့်နေတဲ့လူတွေလန့်ပြီးအော်ကြပြန်တယ်။ ကိုအောင်ချစ်ကြီး ရဲ့ ကျောကုန်းမှာ လက်ဝါးရာကြီး နှစ်ခုဗျာ။ နဲတဲ့လက်ဝါးကြီး မဟုတ် ဘူးဗျို့။

တောင်တစ်ထည်ပြန်ယူပြီး ပုခက်လုပ်။ အလောင်းကိုရွာအရောက် သယ်ခဲ့ကြတယ်။ ထုံးစံအတိုင်း လူသေမှုဖြစ်နေတော့ ရဲစခန်းအကြောင်း ကြားပြီး ဆေးရုံပို့ရတော့တာပေါ့ဗျာ။

ကျုပ်ကိုလည်း စစ်ကြတာပေါ့ အမိန်းအိမ်ကဖဲရိုက်တဲ့ တရက် တွေ အရက်ဖိုက လူ၊ ပြီးတော့ ကျုပ်တို့နဲ့ အဲဒီည ဖဲရိုက်တဲ့လူတွေ အသုဘမှာကပ်လိုက်တဲ့ လူတွေအားလုံး အစစ်ခံကြရတယ်။

ကျုပ်ကိုတော့ အပြန်ပြန်အလှန်လှန် စစ်တာပေါ့ဗျာ။ ကျုပ်က

လည်း အမှန်အတိုင်းထက်ပိုပြီး ဘာကိုမှ မပြောတတ်ဘူးလေ။ အားလုံးကို အမှန်ပဲထွက်ခဲ့တာပါ။

နောက်တော့လည်း အမှုပိတ်ခဲ့ရတာပေါ့ဗျာ။ ကိုအောင်ချစ်သေတဲ့ညက ကျုပ်ပါတယ်ဆိုတာ အားလုံးသိကြတာပေါ့ဗျာ။

အဲဒီတစ်ခါတော့ ခင်ဗျားတစ်ယောက်တည်းသိတာ မဟုတ်ဘူးဗျို့......

တာတေ



# မျက်ကွင်းအေး

သူ့ကိုတွေ့တွေ့ချင်းပဲ တာတေစိတ်ဝင်စားသွားတယ်။ ပုဗ္ဗာရုံကျောင်းမှာ ရှမ်းဆရာတစ်ယောက် ရောက်နေတယ်ဆိုတာကိုတော့ ရွာထဲမှာ အရိုးမသိနိုးလှတို့ ပြောနေကြတာ၊ တာတေကြားပါတယ်၊ သွားမယ် သွားမယ်နဲ့ တစ်ခါမှတော့ မသွားဖြစ်ဘူးဗျ။

ဒီနေ့တော့ ထူးထူးဆန်းဆန်းပဲဗျာ။

ပုဗ္ဗာရုံဆရာတော်က ကျုပ်ကိုခေါ်ခိုင်းလို့တဲ့။ ဘုန်းကြီးကျောင်းသားနှစ်ယောက် ကျုပ်ဆီကို ရောက်လာတယ်။

"ဟဲ့ တာတေ ဒီမှာဘုန်းကြီးကျောင်းသားတွေ ရောက်နေတယ် ဆရာတော် လွှတ်လိုက်လို့တဲ့"

ကျုပ်က နွားစာစဉ်းနေတာဗျ။ အိမ်အနောက်ဖက်ရောက်နေတာ။ အမေလှမ်းခေါ်မှ ကျုပ်သိတာ။ ကျုပ်လည်း လုပ်လက်စအလုပ်ကို ခဏရပ်ထားပြီး အိမ်ပေါ်တက်လာခဲ့ရတာပေါ့။

"ကိုကြီးတာတေကို ဘုန်းကြီးခေါ်ခိုင်းလိုက်လို့ဗျ"

"ဟော့ အာကီစွတုံးကွ၊ တောကျော်ရ"

ဘုန်းကြီးကျောင်းသားလေးရဲ့ နာမည်က တောကျော်ဗျ။ ဒီကောင် ကျုပ်ကို လွှတ်ခင်တာဗျို့။

အရှေ့ဘက်တောင်းကင်

"ဒါတော့ ကျုပ်မသိဘူးဗျ"

ဘောကျော်က ကျုပ်မေးတာကို ပြန်ဖြေတယ်။

"အေး အေး မင်းတို့ပြန်တော့ ဘောကျော်။ ကိုကြီးတာတေ အခုပဲ လာခဲ့မယ်လို့ ဘုန်းကြီးကိုလျှောက်လိုက်"

"မှတ်ကဲ့ မှတ်ကဲ့"

ဘောကျော်နဲ့ သူ့အဖော်ကောင်လေး ထပြန်သွားတယ်။ ကျုပ်လည်း ရေကပျာကယာချိုး၊ အဝတ်အစားကလေးလဲပြီး ရွာရှေ့ပိုင်းကို ထွက်ခဲ့တော့တယ်။

ပုဗ္ဗာရုံကျောင်းကိုရောက်တော့၊ ဆရာတော်က ကျုပ်ကိုထိုင်စောင့်နေတာတွေ့လိုက်ရတယ်ဗျ။

"လာပြော တာတေ ငါ မင်းကို စောင့်နေတာကွ" ကျုပ်က ဆရာတော်ကို ရှိခိုးလိုက်တယ်။

"ဒီလိုကွာ တာတေရ၊ ဘုန်းကြီးဆီကို ဟိုးရှမ်းပြည့်က ရှမ်းဆရာကြီးတစ်ယောက် ရောက်နေတယ်။ အသက်ငါးဆယ်လောက် ရှိသကွ။ နာမည်က ဦးနွံဖတဲ့။ ပညာတော့ အတော်ထက်တဲ့ပုံပဲ တာတေရေ"

"မှန်ပါ့ဘုရား၊ တပည့်တော်ကိုခေါ်ရတဲ့ အကြောင်းက"

"အေး ဒီလိုကွ တာတေရဲ့။ ဆရာနွံဖက ပြောတယ်။ သူဒီကို လာရတဲ့ အဓိကအကြောင်းက သစ်စုန်းလာလိုက်တာတဲ့ကွ"

"သစ်စုန်း ဟုတ်လား ဘုရား"

"အေးကွ၊ သစ်စုန်းတဲ့။ ဘုန်းကြီးလည်း မကြားဘူးပါဘူးကွာ။ ဒီဒကာကြီးပြောမှ ဒါမျိုးတွေရှိတာကို သိရတာ။ သူပြောတာ တစ်ခုက

နည်းနည်းတော့ ထူးဆန်းတယ် တာတောရ။ သစ်စုန်းက သချိုင်းတွေမှာ ပေါက်တတ်တာတဲ့ကွ။ အဲဒီလို သစ်စုန်းပေါက်လာပြီဆိုရင် အစောင့် ရောက်လာရောတဲ့။ အဲ ဒီသစ်စုန်းအစောင့်တွေကို ပြန်ပြီးအုပ်ချုပ်ရတာ က သချိုင်းစောင့် မဖဲဝါကြီးတဲ့ဗျာ။ အခုဆရာမနိုင်ရွာက သုသာန်ထဲ မှာ သစ်စုန်းပေါက်နေတာတဲ့ဗျား။ အပင်က လူရင်စို့လောက်ရှိပြီတဲ့"

"ဟင် ဒီဆရာက ဒါတွေကို ဘယ်လိုသိတုံး အုန်းအုန်းရဲ့"

"အေး အဲဒါကို ဘုန်းကြီးလည်းမေးမြန်းတာပေါ့ တာတောရဲ့"

"မှန်ပါဘုရား"

"တစ်ရက်တော့၊ ဆရာနှံ့ဖက လူနာလာပင့်လို့ ဒီဘက်ကိုလိုက် လာတာတဲ့ကွ။ သူ ပရောဂကပ်နေတဲ့လူနာကို ပရောဂထုတ်တော့ ဝင်ကပ်နေတဲ့ အကောင်က အဲဒီဆရာမနိုင်က သစ်စုန်းစောင့်ဖို့ အလှည့် ကျတဲ့ အကောင်တဲ့ဗျား။ အဲဒါ သစ်စုန်းစောင့်ရမှာစိုးလို့ လာပုန်းခိုနေ တာဆိုပဲကွ"

"အော် ဒီသူရဲလား၊ သစ်စုန်းကို ဘာလို့ မစောင့်ချင်ရတာတုံး ဘုရား"

"အေး ဆရာနှံ့ဖကလည်း ဒီအကြောင်းမေးတာပေါ့ တာတောရ။ ဒီတော့ သူရဲကပြောတယ်တဲ့။ သစ်စုန်းစောင့်တဲ့ကောင်တွေကို မဖဲဝါ ကြီးက တိုက်ရိုက်အုပ်ချုပ်တာဆိုပဲ။ သူတို့က မဖဲဝါကြီးကို အားကြီး ကြောက်ရတာတဲ့ကွ။ အဲဒါကြောင့် ဒီကောင် လူမှာလာကပ်ပြီး ရှောင် နေတာဆိုပဲ"

"အော် ဒါကြောင့်ကိုး"

"အဲဒီ သူရဲနာမည်က စံပွင့်တဲ့ကွ။ သူရဲစံပွင့်ပြောလို့ ဆရာနံ့ဖက ဒီအကြောင်းတွေ သိလာတာတဲ့။ အဲဒီသစ်စုန်းကို ဆရာနံ့ဖက ရအောင်လိုက်မယ်ပြောတယ် တာတေရဲ့"

"ဒီသစ်စုန်းက ဘာတွေစွမ်းလို့လဲ ဘုရား"

"ဟာ ဒီဆရာပြောပုံအရတော့ တော်တော်စွမ်းသွားကလား တာတေရ။ အနုဒီအပင်က လူ့ရင်စို့လောက် ရှိတယ်တဲ့။ ပင်စည်က ထွာနိုင်လောက်ရှိပြီဆိုပဲ အဲဒါကို တောင်ဝှေးလုပ်ပြီး ဆရာကိုင်ရင် အယ်စွမ်းဆိုပဲကွ။ လာဘ်လာဘလည်း ရွှင်တယ်တဲ့။ ပြီးတော့ ဘယ်လိုပရောဂမျိုးမဆို သစ်စုန်းဆေးတောင်ဝှေးကို ကြောက်ကြတယ်ဆိုပဲ။ အဲဒါရရင် ဆရာနံ့ဖက ဘုန်းဘုန်းကို တောင်ဝှေးတစ်ချောင်းလှူမယ်တဲ့။ သူက ကျန်တာယူမှာပေါ့ကွာ။ ဒါမှလည်း တို့ရွာထဲမှာ ပရောဂလေးဘာလေး ကပ်ရင် ဒီတောင်ဝှေးနဲ့ မောင်းထုတ်သင့် ထုတ်ရမှာပေါ့"

"အဲဒါတပည့်တော်က ဘာလုပ်ရမှာလဲဘုရား"

"အေး အေး ပြောမယ်။ ဆရာနံ့ဖက ပြောတယ်၊ အဲဒီသစ်စုန်းပင်ကို လူသာမန်မျက်စိနဲ့ မမြင်ရဘူးတဲ့ကွ"

"အော် တယ်လဲ ထူးဆန်းပါလား ဘုရား"

"ဟုတ်တယ်ကွ ဆရာနံ့ဖတို့မှာ မျက်ကွင်းဆေးဆိုတာ ရှိတယ်တဲ့။ အဲဒါကို သွေးပြီးကွင်းလိုက်ရင် မြင်ရောတဲ့ကွ။ မြင်တာမှ သစ်စုန်းတင် မကဘူးတဲ့မောင်ရေ၊ နာနာဘာဝတွေပါ မြင်ရတာတဲ့"

"ဟော ကြောက်စရာပေါ့ဘုရား"

"အေး အဲဒါကြောင့် သတ္တိရှိတဲ့ လူငယ်တစ်ယောက်ရှာပေးပါ။ စနေသားလည်း ဖြစ်ရမယ်တဲ့ကွ"

"အော်"

"ဒါကြောင့် ငါတ မင်းကိုပြောမြင်တာ တာတေရ။ ဒါကြောင့် ဘုန်းဘုန်းက ဆရာနဲ့ဖကို ပြောတယ်။ အာတေ့ကို ဘုန်းဘုန်းခေါ်ပြီး အကျိုးအကြောင်းပြောပြမယ်။ သူစိတ်ဝင်စားရင်တော့ အဆင်ပြေတာ ပေါ့လို့"

"ဒီလိုဆို တပည့်တော်က မျက်ကွင်းဆေးလိမ်းပြီး သဲစိစုန်းပင် ရှာရမှာပေါ့"

"အေးပေါ့ကွ တာတော်ရ"

နောက်ကော အဲဒီမျက်ကွင်းဆေးကို ပြန်ဖျက်လို့ ရလို့လား ဘုရား"

"ဟဲ့ ရတာပေါ့ကွ နနွင်းဖြူ ဝကွင်းကို ဆေးစီရင်ထားတာ ရှိတယ်တဲ့၊ အဲဒါ လိမ်းလိုက်ရင် တောတောက မျက်ကွင်းဆေးက ပျယ်သွားရောတဲ့ကွ"

"အော် ဖျက်ဆေးရှိတာကိုး"

"ရှိတယ် ရှိတယ် တာတော၊ ဒီအတွက် မစိုးရိမ်နဲ့"

"အင်း တပည့်တော်ကလည်း အဲဒီလိုမျိုး အထူးအဆန်းတွေဆို ရင် သိပ်စိတ်ဝင်စားတာ ဘုရား"

"အေး ဘုန်းဘုန်းသိတယ်လေ တာတောရဲ့။ ဘုန်းဘုန်းမယ်တော် ကြီး ဖုတ်ဝင်တုန်းကလည်း မင်းပဲ ဆရာကျော်နဲ့ တွဲလုပ်ခဲ့တာကို ဘုန်းဘုန်းသိနေတာပဲ"

"မှန်ပါ့ဘုရား ဒါဆိုရင် တပည့်တော်ကို အဲဒီရှမ်းဆရာကြီးနဲ့ တွေ့ပေးပါဘုရား"

"အေး ဟုတ်ပြီ ဒါဆိုလာကွာ။ သူ့ကို ဟိုဘက်ဆွမ်းစားကျောင်းမှာ တည်းခိုဖို့ ဘုန်းဘုန်းက စီစဉ်ပေးထားတာ၊ ဘုန်းကြီးနဲ့ မင်းနဲ့ ဟိုဘက်က ကျောင်းကို သွားရအောင်"

ကျုပ်နဲ့ ဆရာတော် ဆွမ်းစားကျောင်းကို ရောက်လာခဲ့ကြတယ်။ ဆွမ်းစားကျောင်းက နှစ်ထပ်ဗျ။ ဆရာတော်က အပေါ်ထပ်ကိုတက်တော့ ကျုပ်လည်း အပေါ်ထပ်ကို လိုက်ခဲ့ရတာပေါ့။

အပေါ်ထပ်က ဘုရားခန်းမှာ လူကြီးတစ်ယောက် ထိုင်နေတာတွေ့တယ်ဗျ။ အသားဖြူဖြူ၊ နှုတ်ခမ်းမွေး ကားကားနဲ့ဗျ။ အရပ်ကလည်း ခပ်ရှည်ရှည်ပဲ။ ဒီလူကြီးရဲ့ မျက်လုံးတွေက နက်ပြီးတောက်နေတာဗျ။ ဆရာတော်ကြွလာတာ မြင်တော့ ချက်ချင်းထပြီး အရိုအသေပြုတယ်။ ဆရာတော်ကို ဦးချတယ်။

"ကဲ ဆရာဦးနွံဖ။ ဒီသူငယ်က ကျုပ်ပြောတဲ့ တာတေဆိုတာပဲ"

"အော် မောင်တာတေကိုး"

"ဟုတ်ပါတယ်ခင်ဗျ ဆရာကြီး ကျုပ်တာတေပါ"

"အေး အေး မောင်တာတေ အကြောင်းကို ဆရာတော် အမိန့်ရှိထားလို့ ကျုပ်သိထားပြီးပါပြီ။ ကျုပ်နာမည်က ဝိုင်းနွံဖတဲ့၊ ဦးနွံဖပေါ့ကွာ။ ကျုပ်က ပရောဂကုတဲ့ဆရာပေါ့။ တခြားဆေးဝါးတွေလည်း ကိုင်ပါတယ်။ အဲ ကျုပ်ဝါသနာကတော့ ထူးထူးဆန်းဆန်းတွေကို စိတ်ဝင်စားတာပဲကွ။

ဒီလောကမှာ လူတိုင်းမသိနိုင်တဲ့ ထူးဆန်းတဲ့သဘောတရားတွေ ရှိနေတယ်ကွ။ ကြုံကြိုက်တဲ့အခါမျိုးမှာ တွေ့ရမြင်ရတယ်တယ်ဗျ။

"ကျုပ်လည်း အဲဒီလိုလူမျိုးဖဲ့ ဆရာကြီးရဲ့"

"ဟား ဟား ဟား ဒါဆို ဟန်ကျတာပေါ့ကွာ။ ကျုပ်တို့ဆရာ တပည့်နှစ်ယောက်တွဲလို့ရတာပေါ့။ နောက်များမှာလည်း မော်င် တာတောပညာလိုချင်ရင် ကျုပ်ပေးဖို့ ဝန်မလေးပါဘူးဗျ။

"ကျုပ်က ဆရာတော့။ မလုပ်ချင်ဘူးဗျာ။ ထူးထူးဆန်းဆန်း တွေ စိတ်ဝင်စားရုံ သက်သက်ပါပဲ။

"အော် ဒီလိုလား အေးပါလေ။ အခု စိတ်မဝင်စားပေမဲ့ တစ်နေ့ စိတ်ဝင်စားလာတဲ့အခါ ကျုပ်သင်ပေးပါမယ်"

"အေး ကောင်းသဗျား။ ဆရာတပည့်နှစ်ယောက် အခုမှဆုံကြ ပေမဲ့ တစ်ယောက်နဲ့တစ်ယောက် ခင်ခင်မင်မင်ရှိက ဘဝရေစက် ကြောင့်ပဲဗျ။ လုပ်ရကိုင်ရမဲ့ ကိစ္စတွေကို ဆရာနဲ့ဖက မော်င်တာတောကို ပြောပေါ့ဗျာ။ ကဲ ကဲ ဘုန်းကြီးသွားမယ် တိဘက်ကျောင်းမှာ ဘုန်းကြီး ရှိနေတာပဲ။ ကိစ္စရှိရင် တက်သာလာခဲ့ ဟုတ်လား ဒကာကြီးနှံဗ"

"မှန်ပါဘုရား"

ဆရာတော်ဟိုဘက်ကျောင်းကြီး ကြွသွားတော့မှ ဆရာကြီးက ကျုပ်ကိုပြောတယ်ဗျ။

အခုလာမဲ့ လပြည့်ညမှာ သစ်စုန်းတွေမြှူးလိမ့်မယ်တဲ့။ ဒုက္ခတွေ အားလုံးကြုံနေတာ။ ဒီလိုထူးဆန်းတဲ့ မော်ဝင်၊ သိုက်ဝင်အပင်တွေဟာ အသက်ဝင်ကြလိမ့်မယ်တဲ့ဗျာ။

"ဆရာသစ်စုန်းဆိုတာ ဘယ်လိုပုံစံရှိလဲဗျ"

"အဲဒါကျုပ်လည်း သေသေချာချာ မမြင်ဖူးပါဘူး။ ဒီနေ့စုံမှင့်

ကျုပ်ကိုပြောတာကတော့ အရွက်က ဝိုင်းဝိုင်းကလေးတွေတဲ့ကွ၊ ပြီးတော့ အလုံးကထွားစိုင်းလောက်ရှိပြီတဲ့။ အမြင့်ကတော့ လူ့ရင်စို့လောက်ရှိနေပြီဆိုပဲ။ အသားကတော့ အင်မတန်မာတယ်တဲ့။ အနှစ်ကိုပြည့်နေတာတဲ့ကွ။ တစ်နှစ်ကိုတစ်ခါ နက္ခတ်စုံတဲ့ ညမှာ သစ်စုန်းမြူးတတ်တယ်တဲ့။ အမြစ်က ကျွတ်ထွက်ပြီး သချိုင်းထဲမှာ လူလမ်းလျှောက်သလိုကို လျှောက်သွားတာတဲ့ကွ။ အဲဒါ သူ့နေရာကို ပြန်ဝင်ကာနီးအချိန်မှာပြေးဖက်ပြီး သချိုင်းအပြင်ကို ရောက်အောင် ထုတ်ယူနိုင်ရင် သစ်စုန်းရရောတဲ့ တာတေရေ"

"အော် အဲဒီသစ်စုန်းရရင် ဘာဖြစ်တုံး ဆရာကြီး" "ပင်စည်ကိုတောင်ဝှေးလုပ်ပြီး ဆရာတွေကိုင်ရတာကွ။ အရွက်တွေ အကိုင်း၊ အမြစ်တွေကိုတော့ အခြောက်လှမ်းအမှုန့်ထောင်းပြီး ဆေးတောင့်လုပ်ရတာပေါ့။ အဲဒီဆေးတောင့်ကလေး ရေမျှော်တိုက်ရင် ပရောဂ ပြေးတာပေါ့ကွာ။ ဒီဆေးတောင့်ရေကို အိမ်ဆေးဝတ်ပြီး ဖျန်းထားရင် ပရောဂါ မကပ်နိုင်ဘူးပေါ့ကွ။ ဆေးတောင်ဝှေးကတော့ ပရောဂကို ရွယ်လိုက်တာနဲ့တင် ပရောဂတွေ ဖိန့်ဖိန့်တုံအောင် ကြောက်ကြတယ်"

"ဟာ တော်တော်တော့ စွမ်းတဲ့ သစ်စုန်းနော် ဆရာကြီး"

"စွမ်းပါပြီလား တာတေရယ်"

"ဟုတ်ပြီ ကျုပ်လုပ်မယ်ဗျာ"

"အဲဒါကိုမြင်ဖို့က မလွယ်ဖူးကွ၊ အစွမ်းထက်တဲ့ မျက်ကွင်းဆေးရှိဖို့လိုတယ်။ အဲဒီမျက်ကွင်းဆေးက ကျုပ်မှာရှိပြီးသားပါ။ ပြန်ဖျက်တဲ့ဆေးလည်းကျုပ်မှာ အဆင်သင့်ရှိတယ် တာတေရဲ့။ ဘာမှမစိုးရိမ်နဲ့"

"ဟာ မစိုးရိမ်ပါဘူး ဆရာကြီးရယ်။ ဆရာကြီးကို မြင်လိုက်ကတည်းက ကျုပ်ယုံပြီးသားပါ"

"အေး ကောင်းပြီ တာတေး၊ ကျုပ်ဘက်အပိုင်းကို စိတ်ချ၊ မောင်တာတေးသာ သစ်စုန်းပင်ကိုတွေ့ရင် အရအမိ ယူရရုံရမယ်။ ဘာကောင်တွေပဲ တွေ့တွေ့။ မကြောက်ရဘူး၊ မောင်တာတေးကို ဘယ်လိုကောင်မှ မလုပ်ရဲအောင် ကျုပ်ကာကွယ်ထားမယ်။ သစ်စုန်းပင် သချိုင်းမြေကျော်သွားပြီ ဆိုတော့မှ ဒီအပင်ကိုလူတိုင်းမြင်ကြရမှာ ကျုပ်လည်း ဒီတော့မှ ဒီအပင်ကိုမြင်ရမှာ မောင်တာတေးရဲ့"

"ကျုပ် မသိလို့မေးပါရစေဗျာ"

"မေးလေကွာ၊ တာတေးရာ မေးပါကွ"

"ဆရာကြီးလည်း မျက်ကွင်းဆေးလိမ်းထားရင် ဒီအပင်ကိုမြင်ရမှာ မဟုတ်လားဆရာကြီးက ဘာလို့မလိမ်းတာတုံး"

"အေး မင်းမေးတဲ့မေးခွန်းကမေးလိုက်တဲ့ မေးခွန်းပဲကွ တာတေးရ။ အဲဒါကို ဆရာလုပ်တဲ့ သူက ကွင်းခွင့်မရှိဘူးကွ။ တစ်ခြားတစ်ယောက်ကိုပဲ ကွင်းပေးရတာ။ ကွင်းမဲ့သူကလည်း စင်နေသားဖြစ်ရမယ်။ ဒါမှရတာ။ ပြီးတော့ မျက်ကွင်းဆေးကွင်းထားတဲ့ အချိန်မှာ။ မင်းက သစ်စုန်းကိုတင် မြင်ရမှာမဟုတ်ဘူးလေ။ တခြားနာနာဘာဝတွေကိုပါ မြင်ရမှာကွ။ ဒီတော့ တော်ရုံတန်ရုံသတ္တိရှိတဲ့ လူကိုကွင်းပေးလို့မရဘူးကွ။ ရူးသွပ်သွားတတ်တယ်"

"အော် နာနာဘာဝတွေပုံစံက ဒီလောက်ကြောက်စရာကောင်းလို့လား ဆရာကြီး။ ကျုပ် မဖဲဝါကိုတော့ ခပ်လှမ်းလှမ်းက မြင်ဖူးပါတယ်။ ခပ်ဖြူဖြူ အရပ်ရှည်ရှည်ကြီးပဲဗျို့"

"အဲဒါ မီးဖိုး အရိပ်လောက်ပဲမြင်ရတာကွ။ တာတေရ။ တကယ့် အကြောင်းအထည်ကို မြင်ရရင် တအားလန့်သွားတတ်တယ်"

"နေပါဦး ဆရာကြီးရဲ့ မျက်ကွင်းဆေးကွင်းတဲ့အခါ နာနာဘာဝ တွေကို မြင်ရတာတော့ဟုတ်ပါပြီ သူတို့ပြောတဲ့အသံရောကြားနိုင်လား ဗျ"

"အေး အဲဒါက ဒီလိုရှိတယ်ကွ။ ကျုပ်ဆရာကြီးတွေ ပြောတာကတော့ မျက်စေ့ကွင်းတဲ့ လူရဲ့ ပါရမီပေါ်မှာ မူတည်တယ်တဲ့ တာတေ ရဲ့။ မျက်ကွင်းဆေးကွင်းတဲ့ လူရဲ့ ပါရမီတတ်ခဲ့ရင် ရုပ်ပဲ မြင်ရ နိုင်တယ်။ အသံမကြားနိုင်ဘူးကွ။ မင်းကတော့ ကျုပ်ထင်တယ် လေ ဒီဘက်မှာ ပါရမီခံ ကောင်းမယ်ပုံပဲကွ။ အဲဒီဆေးကွင်းတဲ့ ညကျမှပဲ သိရမှာပေါ့ကွာ"

"အော် ဟုတ်ပါပြီ ဆရာကြီး။ ဆရာကြီးနဲ့တွေ့ရတာ။ ကျုပ်တွေ့ တော်ကို ဗဟုသုတတိုးသွားပါရဲ့ဗျာ"

"အေး၊ အဲဒီတော့ လပြည့်ည နေ့ဝင်တာနဲ့ တာတေ ဒီကိုရောက် အောင် လာခဲ့ပေတော့။ ကျုပ်အစစအရာရာပြင်ဆင်ထားလိုက်မယ်"

"ဟုတ်ကဲ့ပါ ဆရာကြီး၊ စိတ်ချပါ။ ကျုပ်ဆက်ဆက်လာခဲ့ပါ့ မယ်"

ကျုပ် ပုဏ္ဏာရုံဆရာတော်ကို ကန်တော့ပြီး ပြန်လာခဲ့တယ်။ တစ် လမ်းလုံးလည်း ကျုပ်တွေးလာတာပေါ့ဗျာ။ ကျုပ်တစ်ခါမှ မကြားဘူး တဲ့ မျက်ကွင်းဆေးအကြောင်းနဲ့ ကြောက်စရာကောင်းတဲ့ နာနာဘာဝ တွေကို တွေ့ရ၊ မြင်ရတဲ့အခါ ကျုပ်ရော ခံနိုင်ရည် ရှိပါ့မလား။ ခံနိုင်

ရည် မရှိရင်တော့ ကျုပ် သွက်သွက်လည်အောင်ရှူးသွားမှာဗျ။ ဟုတ်မှ ဟုတ်ရဲ့လား ငတာတေရေလို့၊ ကျုပ်ကိုယ်ကျုပ်မေးမိတယ်ဗျ။ အို ဘာပဲဖြစ်ဖြစ်ဗျာ ဒီလိုအခွင့်အရေးမျိုးကိုတော့ ကျုပ်လက်လွှတ်မခံနိုင်ဘူးဗျို့။ ဆရာကြီးစိုင်းနွံဖနဲ့ ကျုပ်လိုက်ကို လိုက်မယ်။

လမြည့်နေ့ညနေ နေဝင်သွားချိန်မှာ အမေနဲ့အဘကို ကျုပ် ပုဗ္ဗာရုံကျောင်း သွားဦးမယ်။ ဆရာတော်ခေါ်ထားလို့လို့ ပြောပြီး အိမ်ကနေ ကျုပ်ထွက်လာခဲ့တယ်။

ကျုပ်ဆိုတဲ့ကောင်က တစ်သက်လုံးဒီလိုပဲသွားနေကြဆိုတော့ အဘနဲ့ အမေကလည်း သိပ်မဆန်းတော့ပါဘူးလေ။

ကျုပ် ပုဗ္ဗာရုံကျောင်းကိုရောက်တော့ ဆရာကြီးက ဘုရားခန်းထဲမှာ ဆေးဝါးတွေ စီရင်နေတယ်ဗျ။ ရွှတ်ဖတ်တာတွေလည်း လုပ်နေတယ်။ ကျုပ်က ဘုရားဦးတိုက်လိုက်ပြီး ငြိမ်ငြိမ်ပဲ ထိုင်နေလိုက်ပါတယ်။

ခဏနေတော့ ခံတွင်းနည်းနည်းချဉ်လာလို့ ဆေးလိပ်သောက်ရင်ကောင်းမလားလို့ စဉ်းစားလိုက်တယ်။ ဆရာကြီးက ကြိုက်ချင်မှ ကြိုက်မှာလို့ တွေးမိတာနဲ့ မသောက်ပဲ နေလိုက်တော့တယ်။

"မောင်တာတေ ဆေးလိပ်သောက်ချင်ရင်သောက်ပါကွ။ ရပါတယ်။ ကျုပ်ကို အနှောင့်အယှက်မဖြစ်ပါဘူး။ ကျုပ်အလုပ်တွေလည်း အားလုံးပြီးပါပြီ"

ကျုပ် ဆရာကြီးကို တော်တော်အံ့သြသွားတယ်ဗျ၊ ကျုပ်စိတ်ထဲမှာ ဖြစ်ပေါ်နေတာတွေကို ဆရာကြီးသိနေတာကိုးလို့ တွေးလိုက်မိတယ်။

"အင်း ကျုပ်သိနိုင်စွမ်း ရှိပါတယ်၊ မောင်တာတေ အခု မောင်တာတေက ထမင်းစားလာခဲ့တယ်မို့လား"

"ဟုတ်ကဲ့ စားလာခဲ့ပါတယ် ဆရာကြီး"

"အေး မင်းထမင်းစားတာကြက်သားဟင်းနဲ့လေ၊ ကြက်သားဟင်းက ငရုတ်သီးစပ်လွန်းလို့ မင်းရေ ၂ ခါတောင် ထသောက်ရတယ်မို့လား ပြီးတော့ အဲဒီကြက်သားက မင်းတို့အိမ်တောင်ဘက်ဝိုင်းက အသားမို့လား၊ ကြက်ကနည်းနည်းရင့်နေလို့ မင်းအမေမှာ နူးအောင်တော်တော်ကို ချက်လိုက်ရတာကွ။ ကြက်ဖဆိုတော့ အသားက မာတာပေါ့ကွ"

"ဗျာ ဒါတွေကအစ ဆရာကြီး သိနေတယ်ဟုတ်လား"

"အေး သိပါတယ် မောင်တာတေ ခုလိုပြောပြတာ ကျုပ်ပုဏ်ကို ဖော်ချင်လွန်းလို့ မဟုတ်ပါဘူး မင်းယုံကြည်ပြီး တပည့်ခံရမဲ့လူက ဘယ်လိုလူဆိုတာလောက်တော့ သိထားသင့်တယ် ထင်လို့ ပြောပြတာပါ"

"အော် ဟုတ်ကဲ့ပါ ဆရာကြီး။ ကျုပ်တစ်သက်မှာတော့ ဆရာကြီးလို ဆရာမျိုး ဒီတစ်ခါပဲမြင်ဖူးပါသေးတယ်ဗျာ"

"အေး အေး အခု ကျုပ် ရွတ်ဖတ်နေတာတွေ မောင်တာတေတွေ့တယ်မို့လား"

"ဟုတ်ကဲ့ တွေ့ပါတယ် ဆရာကြီး"

"အေး အဲဒါ ဆေးတွေ အင်းတွေကို မန္တန်ရွတ်ပြီး နှိုးထားတာကွဲ့။ ဒါမှ အရေးအကြောင်းရှိလာရင် အားလုံးအသက်ဝင်နေမှာပေါ့။ ဘာမှ မကြောက်နဲ့ မောင်တာတေ ကျုပ်နဲ့တွဲမိလို့ မင်းဘာမှ မဖြစ်စေရဘူး သိလား"

"ဟာ... ကျုပ် ဆရာကြီးကို ယုံပြီးသွားပါဗျာ"

"အေး အေး ကောင်းတာပေါ့ကွာ"

ကျုပ်က ဆေးပေါ့လိပ်ကလေး မီးညှိပြီး ဖွာတယ်ဗျ၊ ဆရာကြီးကတော့ ရေနွေးကြမ်းတွေ တစ်ခွက်ပြီး တစ်ခွက်သောက်ပြီး တွေးနေတယ်။ တော်တော်ကလေး ညဉ့်နက်လို့ ရွာထဲမှာလူခြေတိတ်ပြီ ဆိုတော့မှ

"ကဲ တာတေရေ၊ ကျုပ်တို့ ဆရာတပည့်နှစ်ယောက် ဘုရားရှိခိုးကြစို့ရဲ့"

"ဟုတ်ကဲ့ ဆရာကြီး"

ကျုပ်ရော ဆရာကြီးပါ ဘုရားကို ဦးတိုက်ကြတယ်။ ဘုရားရှိခိုးပြီးတော့ ဆရာကြီးစိုင်းနွံဖက ဘုရားမှာ သစ္စာဆိုတယ်။

"ဘုရားတပည့်တော်စိုင်းနွံဖဟာ ဒီပညာတွေ တတ်မြောက်တဲ့အချိန်ကစပြီး လူတွေရဲ့ ဒုက္ခကို ကယ်တင်ခဲ့တာပါပဲဘုရား။ အခုလည်း ဘုရား တပည့်တော် အလိုရှိတဲ့ ပစ္စည်းကိုရရင် သတ္တဝါတွေကို ကယ်တင်ဖို့ စောင့်ရှောက်ဖို့ပဲ ရည်ရွယ်တာပါဘုရား။ ဤသစ္စာစကားမှန်ကန်ပါ က ဘုရားတပည့်တော်တို့ ဆရာတပည့်နှစ်ယောက် ဒီညမြေလှုပ်မဲ့ ကိစ္စကို အောင်မြင်ရပါလို၏ ဘုရား။

ကျုပ်ရော ဆရာကြီးပါ ဘုရားကို ဦးသုံးကြိမ် ချလိုက်ကြတယ်။

"ကဲ မောင်တာတေရေ သွားဖို့ အချိန်ကြပြီကွဲ့"

"ဟုတ်ကဲ့ အသင့်ပါပဲ ဆရာကြီး"

ကျုပ်နဲ့ ဆရာကြီး ရွာပြင်ကို ထွက်ခဲ့ကြတယ်။ ပြီးတော့ ရွာပြင်က

ခါတ်ပြီး လျှောက်ခဲ့ကြတယ်။ "ဒီအချိန်သွားမှ ဆရာမနိုင်ကို သန်း ခေါင်ရလောက်ရောက်မှာကွ။ ကြိုသွားလို့လဲ မရဘူးလေ။ မဖဲဝါက ကြိုသိနေရင် ဘာမှ လုပ်လို့ရမှာမဟုတ်ဘူး တာတေရ"

ကျုပ်နားထဲမှာ မဖဲဝါဆိုတဲ့ အသံကြားလိုက်ရတော့ နည်းနည်း တော့ လန့်သွားတယ်ဗျို့။ ဒါပေမဲ့ ဆရာကြီးရဲ့ ပညာစွမ်းကို ကျုပ် ယုံတယ်ဗျာ။ ကျုပ်တို့ဆရာတပည့် ဘယ်ရွာကိုမှ မဝင်ဘဲ အပြင်က ချည်း ပါတ်သွားကြတာ ဆရာမနိုင်ကို ကျုပ်ကဖြတ်လမ်းသိတော့၊ အဲဒီလမ်းက ဆရာကြီးကိုခေါ်လာတာ သန်းခေါင်မတိုင်ခင် ဆရာမ နိုင်သချိုင်းထဲကို ကျုပ်တို့ဆရာတပည့်ရောက်လာတာဗျို့။

"ကဲ လာမောင်တာတေ ဟိုရေပ်ပေါ်ကို တက်ကြစို့"

ကျုပ်တို့ ဆရာတပည့် နှစ်ယောင်ပြိုင်ရွာသချိုင်းကုန်းထဲက ရေပ် ပေါ် ထက်လာကြတယ်။ ဇရပ်ပေါ်မှာ ဆရာကြီးက အကျအနထိုင် လိုက်ပြီးတော့၊ သူ့လွယ်အိတ်ကြီးထဲက ကျောက်ပျဉ်သေးသေးလေး ကို ထုတ်တယ်။ ပြီးတော့ မျက်စဉ်းပုလင်းလောက်ရှိတဲ့ ရေပုလင်း ကလေးကို ထုတ်တယ်ဗျ။ နောက်တော့ ဆေးတောင့်တစ်တောင့်ကို သွေးတော့တာပဲဗျာ။ ရေးရှည်ညိုညိုကလေးတွေ ထွက်လာတော့မှ

"ကဲလာ တာတေ။ မျက်စေ့ကို ကွင်းကြစို့" ပြောပြောဆိုဆို ကျုပ် မျက်စေ့ နှစ်ဘက်မှာ ဆေးကွင်းပေးတယ်ဗျ။ ခင်ဗျားတို့ ကျုပ်တို့ မျက်စေ့နာတဲ့အခါ မန်ကျည်းခေါက်သွေးပြီး ကွင်းသလိုပေါ့ဗျာ။ ခဏ နေတော့ ဆေးခြောက်သွားတယ်ဗျ။

"လာ ဒီရှေ့တိုး"

ဆိုလို့ ကျုပ်က ဆရာကြီးရှေ့ကို တိုးလိုက်ရတယ်။ ဆရာကြီးက ကျုပ်အိပ်ထဲကို ဆေးဥတစ်ဥ ထည့်ပေးတယ်"

"ဒါဟာ "ဝ"ကွင်း နန္ဒင်းဖြူကွ။ ဆေးစီရင်ပြီးသား မင်းဘာသာ မင်းသွေးပြီး မျက်ခွံကို ကွင်းလိုက်ရင် အောက်က ဗျက်ကွင်းဆေးအာ နိသင် ပျယ်သွားလိမ့်မယ်။ ဟောဒီမှာ မင်းအိပ်ထဲကို ထည့်ထားပေး။ ပြီးတော့ အကျီစအိတ်ကို ကျုပ်ချိတ်အပ်နဲ့ ပိတ်လိုက်မယ်။ ထွက်ကျပြီး မပျောက်အောင်ပေါ့ကွာ"

"ဟုတ်ကဲ့ပါဆရာကြီး" တော်တော်ကိုစေ့စပ်သေချာတဲ့ ဆရာကြီး ပဲလို့ ကျုပ်စိတ်က တွေးလိုက်မိတယ်။

"ဒါမျိုးက မသေချာလို့မရဘူးလေ တာတေရဲ့။ ကဲ မင်းဘာမှ မကြောက်နဲ့နော်။ သချိုင်းဘက်ကိုလှည့်ပြီး ကြည့်လိုက်ပေတော့ ပြီးရင် မင်းမြင်တာတွေ ကျုပ်ကို ပြောပြပေတော့"

ကျုပ် ခပ်ဖြေးဖြေးပဲ သချိုင်းကုန်းကြီးဘက်ကို လှည့်လိုက်တယ်။

"ဟာ"

မကြောက်နဲ့ မောင်တာတေ အဲဒါတွေက အပါယ်လေးဘုံသားတွေပါ။ ဒို့ဘုရားဟောခဲ့တဲ့ အပါယ်လေးဘုံသားတွေပေါ့။ ကဲ မင်းမြင်တာ ဆရာကို ပြောပါဦး"

"ဆရာကြီး သချိုင်းထဲက အပင်ကြီးတွေပေါ်မှာ အကောင်တွေ အပြည့်ပါပဲလားဗျ"

"အေး ဟုတ်ပြီ၊ ကြည့် ကြည့် မကြောက်နဲ့"

"ဟာ ဟိုဘက် ဘေးပင်ပေါ်မှာက နှစ်ကောင်ဗျ။ အို ကြည့်ပါဦး

တစ်ကောင်က နှာရှက်ကြီး အကြီးကြီးဗျ။ မျက်လုံးကြီးတွေကလည်း လင်းကွင်းလောက်ကို ရှိပါလား"

"အော် ဟုတ်ပြီ ဒီကောင်တွေ ကျုပ်တို့ကို ကြည့်နေကြသလား"

"ဟာ မကြည့်ဘူးဗျ။ သူတို့ဖာသာနေနေကြတာပဲ"

"အေးဟုတ်ပြီ သချိုင်းထဲကို လျှောက်ကြည့်ကွာ။ လသာလိုက်တာမှ ထိန်နေတာပဲ၊ အားလုံး မြင်ရပါတယ်"

"ဟာ ဆရာကြီး တောင်ဘက်က အုတ်ဂူကြီးပေါ်မှာ ဆံပင်ဖားလျားကြီးနဲ့ မိန်းမတစ်ယောက် ထိုင်နေတယ်ဗျ။ သူ့ရှေ့မှာ ဆံပင်ဖားလျားနဲ့ သူ့ရဲ့မတွေ လေးငါးယောက်က ကြုံကြုံထိုင်နေကြတယ်"

"အော် မဖဲဝါလည်း ရောက်နေပြီးကိုး၊ အေး အဲဒါ မင်းတွေ့ဖူးတယ်ဆိုတဲ့ မဖဲဝါပေါ့ကွာ၊ ရှေ့ကဟာတွေက သူ့တပည့်တပန်းတွေပေါ့။ သူ့ကိုခစားနေကြတာ ဖြစ်မှာပေါ့။ သူကကော ကျုပ်တို့ကို ကြည့်သလားကွ"

"ဟာကြည့်တယ်ဗျ၊ မျက်လုံးကြီးကနည်းတဲ့ဟာမှ မဟုတ်ပဲဗျာ။ ကျုပ်အရင်တွေ့တုန်းက ဖြူဖြူအရိုပ်ကြီးဗျ"

"အေး အဲဒီတုန်းက ကိုပြတာ။ အရိပ်ပဲပြတာလေ။ အခုမင်းမြင်နေရတာက အကောင်ပေါ်ကွ တာတေရ။ အသာနေ သူတို့ကို သွားမကြည့်နဲ့ သစ်ပင်တွေလိုက်ကြည့်ကွာ။ ထူးခြားတဲ့ သစ်ပင်များတွေ့သလားလို့"

"သစ်ပင်တွေအကုန်လုံးက ရောနေတာဗျ"

"ရင်ခိုလောက်အရွက်ဝိုင်းဝိုင်းနဲ့ ထွာဆိုင်လောက် အပင်လေးကွာ"

"ဟာ အဲဒီလိုအပင်တွေက အများချည်းဆရာကြီးရဲ့။ အော် နေဦးဗျ။ မဖဲဝါကြီး စိုက်ကြည့်နေတဲ့ အပင့်တစ်ပင် ရှိတယ်ဗျ"

"အေး အေး ပြောစမ်း ဘယ်နားမှာလဲ"

"ဆရာကြီး အသာလှမ်းကြည့်လိုက် အုတ်ဂူအစိမ်းရောင်တွေ့လား"

"အေး...တွေ့တယ်လေ။ ဂူအစိမ်းက တစ်လုံးပဲရှိတာမို့လားကွ"

"အဲဒီ ဂူအစိမ်းရဲ့ ခေါင်းရင်းမှာ ရင်စို့လောက် အပင်တစ်ပင်ရှိတယ်ဗျ။ အရွက်ကလည်း ခပ်စိုင်းဝိုင်းပဲ"

"ဟေ...အဲဒီအပင်ကို ငါမမြင်ရဘူးကွ။ ဟုတ်ပြီ မင်းက ဆေးကွင်းထားလို့ မြင်ရတာနေမှာပေါ့။ ကြည့်ထား အဲဒီအပင်ပဲဖြစ်မယ်ကွ။ တကာတေရေ့ အဲဒါသစ်စုန်းပဲကွ"

"ဟာ...ဆရာကြီး အဲဒီအပင်ဘေးမှာ အကောင်ကြီးတစ်ကောင် ရပ်နေတယ်ဗျ။ မျက်လုံးကြီးတွေက လင်ကွင်းလောက်ရှိတယ်ဗျ။ လျှာကြီးက တွဲလောင်းကြီးကျနေတယ်ဗျို့၊ ဟာ...လက်ဖဝါးကြီးတွေလည်း အကြီးကြီးနဲ့ဗျာ"

"ဟာ အဲဒါသူ့ရဲ့စံပွင့်ပေါ့ကွ။ သူ အဲဒီအပင်ကို စောင့်ရှမ်းစိုးလို့ လှုထဲဝင်မှုန်းနေတာလေကွာ။ စံပွင့်ပြောလို့ ကျုပ် ဒီအပင်အကြောင်း သိတာကွ။ စံပွင့်က ကျုပ်တို့ကိုတားမှာ မဟုတ်ဘူး။ ဒီအပင်မရှိမှ အေးမယ်လို့ တွေးနေတဲ့အကောင်ကွ"

"ဟော...ဆရာကြီးရေ လေလည်းမတိုက်ပဲနဲ့၊ အဲဒီအပင်က လှုပ်ရမ်းနေတယ်ဗျို့။ ဟော...တစ်ဘက်တည်းကို ယိမ်းတာမဟုတ်ပဲဘက်

ပေါင်းစုံယိမ်းနေတာဗျို့။ ဟော…ဟော…မဖဲဝါကြီးနဲ့ သူ့တပည့်တွေ အဲဒီကို သွားနေကြပြီဗျ"

"အေး…နက္ခတ်အချိန်ကြပြီကိုး တာတေရဲ့၊ သစ်စုန်းပင်မှာ အသက်ဝင်လာပြီပေါ့ သေသေချာချာကြည့်နေနော်"

"ဟာ…ဆရာကြီးရေ သစ်ပင်က အပေါ်ကို ကြွတက်လာနေပြီဗျို့"

"အေး…ဟုတ်ပြီ၊ ဟုတ်ပြီ မဖဲဝါဘာလုပ်နေလဲ"

"ဟာ…မဖဲဝါက လက်ကြီးနှစ်ဘက်ရှေ့ကို ဆန့်ပြီးပါးစပ်က ပွစိပွစိနဲ့ ပြောနေတာဗျ။ ဘာပြောတာလဲတော့ ကျုပ် မကြားရဘူး"

"အေး…အေး…ဟုတ်ပြီ၊ ကြည့်ထား"

"ဟာ…ဆရာကြီးရေ သစ်စုန်းပင်က လှလမ်းလျှောက်သလို လျှောက်နေပြီဗျို့။ ဟာ မဖဲဝါရော သူ့ရဲ့စုပွင့်ကြီးတို့ရော အပင်နောက်က လျှောက်လိုက်နေကြပြီဗျို့"

"ဟာ ဟုတ်လား ဘယ် ဘယ်ကို သွားနေလဲကွ"

"သချိုင်းအနောက်ဘက်ဗျ။ အားလုံးအုံဖြိုးလိုက်သွားကြတယ်"

"အေး တာတေရေ အပင်ထိပ်က ကောင်တွေကို တစ်ချက်ကြည့်စမ်းကွာ"

"ဟာ…ဒီကောင်တွေလည်း အဲဒါကို ဝိုင်းကြည့်နေကြတယ်ဗျ"

"အေး…ဟုတ်ပြီ မင်းသေသေချာချာနားထောင် တာတေ၊ အဲဒီအပင်က စောစောက ဂူအစိမ်းနားကို ရောက်အောင်ပြန်သွားမှာ အဲဒီအချိန်မှာ ငါက မဖဲဝါတို့ဆီကို ဆေးလုံးပစ်သွင်းလိုက်မယ်။ မင်းက

ရှုအစိမ်းနားကို သွားပြီးပုန်းနေ။ သစ်စုန်းပင်ရော မဖဲဝါတို့ရော အဲဒီနားကပ်လာတာနဲ့။ မင်းက မတ်တပ်ထရပ်လိုက်။ ငါက ဆေးလုံးပစ်လိုက်မယ်။ သူတို့အားလုံး ခဏကြာအောင် ကြက်သေသေသွားကြလိမ့်မယ်။ သူတို့တင်မကဘူး၊ ဒီသချိုင်းက အကောင်တွေအားလုံးကြက်သေသေသွားမှာ။ သိပ်ကြာမှာတော့ မဟုတ်ဘူးကွ။ အဲဒီအချိန်မှာ မင်းကသစ်စုန်းပင်ကို ပြေးထမ်းပြီး။ သချိုင်းအပြင်ကိုအရောက်ပြေးပေတော့။ ငါက နောက်ထပ်ဆေးတစ်လုံးပစ်သွင်းပြီး မင်းနောက်က ပြေးလိုက်ခဲ့မယ်။ သချိုင်းအပြင်ရောက်ရင် မင်းဆက်မပြေးနဲ့ ငါ့ကိုစောင့်နေ ဖြစ်တယ်မို့လား တာတေ"

"ဟာ...သိပ်ဖြစ်တာပေါ့။ ဆရာကြီးရာ"

"အခု ဘယ်ရောက်သွားပြီလဲကွ။ သည်ပင်က လူလမ်းလျှောက်သလို တစ်လှမ်းခြင်း လျှောက်နေတာဗျို့" နောက်က မဖဲဝါကြီးက ဦးဆောင်ပြီး သစ်ပင်နောက်က ခပ်ခွာခွာမဲလိုက်နေတာ ဆရာကြီးရဲ့"

"အေး...သူ့ရဲ့စိပ္ပင့်ကြီးရောပါသလားကွ"

"ဟာ...ပါတာပေါ့ဗျ အဲဒီ အကောင်ကြီးက မဖဲဝါခေါးမှာ ကုတ်ကုတ်ကွဲလေးဗျ"

"အေး...ဟုတ်မယ်ကွ၊ ဒီကောင်ကြီးက မဖဲဝါကို အားကြီးကြောက်ရှာဆိုပဲ။ အခုဘယ်ဘက်ကို ရောက်သွားပြီလဲ"

"ဟောဟိုက ထနောင်းပင်နှစ်ပင်ကို ဆရာကြီးတွေ့တယ်မို့လား"

"အေး...တွေ့တယ်လေ"

"အဲဒီအောက်မှာ လျှောက်နေတာဗျို့"

"ဟာ…အဲဒါသချိုင်းရဲ့ နယ်နိမိတ်ပဲကွ၊ အဲဒါပြီးရင် ဒီဘက်ကို ဖြန့်ပြီး ဖေါ်လာမယ် ထင်တယ်"

"ဟာ…ဆရာကြီး သစ်စုန်းပင်က လှုလိုပဲ ခုန်နေတယ်ဗျို့"

"ဟာ…ဟုတ်သလားကွ"

"ဟုတ်ပါ့ဗျာ။ သူ့အကိုင်းတွေကလည်း လူ့လက်တွေလိုပဲ။ အတွေ့အစနဲ့လုပ်လို့ရတယ်ဗျ။ ဟာ…ဟော…ခုန်ပြန်ပြီဗျို့။ တော်တော်တော့ သွေးပျက်စရာကောင်းတဲ့ မြင်ကွင်းပဲဗျာ"

"ဟာ…မကြောက်စမ်းပါနဲ့ တာတေရာ"

"မကြောက်ပါဘူးဗျာ။ ကျုပ်က အခုချက်ချင်းတောင် ပြေးထမ်းလိုက်ချင်ပြီဗျ"

"ဟာ…မရသေးဘူးလေကွာ။ သူတစ်ပတ်ပြည့်အောင် လျှောက်ပြီးမှ အခ်နိသင်အပြည့်ရမှာကွ။ ကဲ…ဆက်ကြည့်ပြန်ဟေ့"

"ဟုတ်တယ်ဗျို့၊ ဒီအပင်က သချိုင်းကိုလှည့်ပတ်သွားနေတာဗျာ။ဟိုဘက်ကဂူတွေဘက်ကို တက်သွားပြီဗျို့"

"ဟုတ်ပြီ ဟုတ်ပြီ မျက်ခြေမပြတ်သာ ကြည့်နေဟေ့"

ကျုပ်ကြည့်နေတုံးမှာပဲ သစ်စုန်းပင်က သချိုင်းနေရာအနှံ့ကို ရောက်သွားတယ်ဗျ။ သချိုင်းတစ်ခုလုံး ရောက်သွားတော့မှ ရပ်နေတယ်။ မဖဲဝါကြီးတို့ကလည်း နောက်ကထပ်ချပ်မကွာ လိုက်နေတာဗျို့။

"ရပ်နေတယ် ဆရာကြီးရဲ့"

"ဟာ…ဟုတ်လား၊ ကဲဒါဆိုရင် မင်းဂူအစိမ်းဘေးကိုသွားပြီး ပုန်းနေတော့ဟေ့ အနားရောက်လာတာနဲ့ ကျုပ် မှာထားသလို မတ်တပ်

ထရပ်လိုက်နော်။ ကျုပ် ဆေးလုံးပစ်သွင်းမယ်။ ကျုပ်ကလည်း ဟော ဟိုက ဘုန်းကြီးမယ်တော်ကြီးရဲ့ ဂူနားမှာ ကပ်နေမှာသိလား"

"ဟုတ်ပြီ ဆရာကြီး ဒါဆိုရင် ကျုပ်သွားပြီဗျို့"

ကျုပ်က ဆရာကြီးခိုင်းတဲ့အတိုင်း ဂူတွေကြားမှာပုန်းပြီး ဂူအစိမ်း နားကို ရောက်အောင်လာခဲ့တယ်။ ကျုပ် လှည့်ကြည့်တော့ ဆရာကြီး လည်း ကျုပ်လိုပဲ ဂူတွေကွယ်ပြီး လာနေတယ်ဗျ။ အစွန်းအတက် တွေနဲ့ လုပ်ထားတဲ့ မယ်တော့်ဂူနားရောက်သွားပြီဗျို့။ မဖဲဝါကြီးတို့ ကတော့ သစ်စုန်းပင်ကိုပဲ အာရုံထားနေတာဆိုတော့ ကျုပ်တို့ကို မြင် ပုံမပေါ်ဘူးဗျ။ သစ်ပင်ပေါ်က ကောင်တွေကလည်း ဘာကိုမှမကြည့် တော့ဘူးဗျို့။ သူတို့ဟာသူတို့ပဲ ငြိမ်နေကြတယ်။

ဟော ပြောရင်းဆိုရင်း သစ်စုန်းပင် ကခုန်ပြီး ပြန်လာနေပြီဗျို့။ အောင်မယ်လေးလေး...။ မဖဲဝါက အရပ်ကြီး ဆယ်ပေ၊ ဆယ့်တစ်ပေ လောက်ကို ရှိတာဗျို့။ မျက်နှာကြီးက မဲနက်နေတာဗျ။ မျက်လုံးနီကြီး နှစ်လုံးကလည်း ပြူးထွက်နေတာဗျို့။ ကျုပ် လန့်မအော်မိအောင်ကို မနည်းထိန်းထားရတာဗျ။ ဟော လာကြပြီ။ လာကြပြီ။ ဂူအစိမ်းနားကို ရောက်တော့မယ်။ ရောက်တော့မယ်။ ဆရာကြီးမှာတဲ့အတိုင်း ကျုပ် မတ်တမ်ထရပ်လိုက်တယ်။ မတ်တပ်ရပ်ရုံတင်မကဘူးဗျို့။ မဖဲဝါကြီး ကိုဝါ လက်ညှိုးထိုးပြလိုက်တယ်။ ပစ်ပြီဗျို့။ ကျုပ်ဆရာကြီး ပစ်လိုက် ပြီ။ ဟာ...စွမ်းလိုက်တဲ့ဆေးဗျာ။ မဖဲဝါရော၊ သူ့ရဲ့စုပ္ပင့်ကြီးရော၊ နောက် ကို တစ်လံလောက် ရွေ့သွားကြတယ်ဗျ။ ပြီးတော့ ဘာမှ မမြင်သလို ငိုင်နေကြတယ်။ ကျုပ်ပြေးပြီး သစ်စုန်းပင်ကို မွှေ့ပြီး ပခုံးပေါ်ထမ်းလိုက် တယ်။ ပြေးပြီဗျို့၊ ပြေးပြီ။ တစ်ချိုးတည်းပဲ။ တာတောတဲ့ဟောလို့ ကျုပ်

စိတ်ထဲမှာ ကြုံးဝါးရင်း၊ သစ်နန်းပင်ကို ပခုံးမှာ မိမိရရထမ်းပြီး ကျုပ် ပြေးတယ်။

"ရှောင်ကြ၊ ရှားကြဟေ့"

ဆိုတဲ့ ဆရာကြီးရဲ့ ကြုံးဝါးသံကြီးကို ကျုပ် နောက်ဘက်မှာ ကြားလိုက်ရတယ်ဗျ။ ကျုပ်နောက်မှာ ဆရာကြီးပါလာပြီဆိုတာ သိတော့ ကျုပ်အားတက်သွားတာပေါ့ဗျာ။

"ပြေးဟေ့၊ တာရှာ၊ မနားနဲ့ပြေး"

လို့ ဆရာကြီးက ကျုပ်နောက်က ကပ်ပြီးပြောလိုက်တယ်။ ရောက်တော့မယ်။ ရောက်တော့မယ်။ ဟော... ရောက်ပြီဗျို့။ သချိုင်း အပြင်ကို ကျုပ်တို့ရောက်ပြီဗျ။

"ဆက်ပြေးတာတေ။ ဆက်ပြေး။ ဟိုရှေ့က ယာခင်းထဲအထိပြေးကွ။ ဟား...ဟား...ဟား...ကျုပ်သစ်နန်းပင်ကို မြင်ရပြီဟေ့"

ကျုပ်ပြေးတယ်။ မနားဘူး ပြေးတယ်။ အဲပြောရဦးမယ်ဗျို့၊ ကျုပ် ပခုံးပေါ်မှာပါလာတဲ့ သစ်နန်းပင်က လူတစ်ယောက်ရှိန်းသလိုရှိန်းနေ တာဗျ။ ကျုပ်ကာသေသေချာချာကို ဖိဆုပ်ထားရတာ။ သချိုင်းနဲ့ဝေးလာ တော့မှ ဒီကောင်ငြိမ်လာတယ်။

"ဘယ်နှယ်လဲ တာတေ မင်းပခုံးပေါ်ကကောင် လှုပ်သေးလား"

"ဟာ ငြိမ်သွားပြီဗျို့ ဆရာကြီးရေ"

"အေး ဒါဆိုရင်ရပြီကွ။ တာတေ ရပ်လိုက်တော့"

ကျုပ်တို့ ဆရာတပည့်နှစ်ယောက် ရပ်လိုက်ကြတယ်။ နှစ်ယောက် လုံးဟောဟဲလိုက်အောင် မောနေကြတာဗျို့။

"တာတေနောက်ကိုတစ်ချက်ပြန်ကြည့်စမ်း ဘာမြင်သလဲ"

ကျုပ်နောက်ကိုလှည့်ကြည့်တယ်။ မြင်တာပေါ့ဗျာ။

"ဟာ...ဆရာကြီး။ မဖဲဝါကြီး သချိုင်းအစမှာ မတ်တပ်ကြီးရပ်နေတယ်ဗျ"

"ဟေ...ဟုတ်လား ငါတို့နောက်ကိုလိုက်လာတာလား"

"မလိုက်ဘူးဗျ၊ ရပ်နေတာ၊ ကျုပ်တို့ကိုကြည့်တော့ ကြည့်နေတယ်ဗျ"

"ဒါဆိုအောင်ပြီပေါ့ကွာ ကဲ တာဝေ ခပ်သုတ်သုတ်သွားကြစို့"

"ဟုတ်ကဲ့ ဆရာကြီး"

ကျုပ်တာ သစ်စုန်းပင်ကိုထမ်းရင်း ဆရာကြီးနဲ့ကျုပ်ရဲ့ ခရီးဆက်ကြတယ်။ နောက်တော့မကြာမှကြာ လှည့်ကြည့်ရတာပေါ့ဗျာ။ မဖဲဝါ လိုက်မလာပါဘူး။ လမ်းမှာတော့ဗျာ။ အကောင်မျိုးစုံ ကျုပ်မြင်ရတာပေါ့။ တစ်ချို့ဆိုရင် ခေါင်းကတင်းတောင်းလောက်ကို ရှိတာဗျ။ ဒါပေမဲ့ ကျုပ်တို့ကို ဘာအန္တရာယ်မှ မပေးကြပါဘူး။ ထဲနောင်းတုန်းကို ကျုပ်တို့ဆရာတပည့်နှစ်ယောက် ပြန်ရောက်တော့ အရုဏ်တောင်တက်ကာနီးနေပြီဗျ။

တကယ်တော့ ဒီညကိစ္စကို ပုဏ္ဏားဆရာတော်ရယ်၊ ဆရာကြီးရယ် ကျုပ်ရယ်ပဲ သိခဲ့ကြတာလေ။

အဲ...အခုတော့ ခင်ဗျားလည်းသိသွားပြီပေါ့ဗျာ။

ဇေတ



# ကိုးသချိုင်းကာဝေ

မှတ်ပြီးကာတိတည်တဲ့လူများ

ကျုပ်ဆရာကြီးစိုင်းနွံမကို ပြောတာပါ။ ကျုပ်ရအောင်ယူပေးတဲ့ သစ်စုန်းပင်ကို ပုဗ္ဗာရုံကျောင်းမှာပဲ တောင်ဝှေးလုပ်တယ်။ ဆေးတောင်ဝှေးသုံးချောင်းထွက်တယ်ဗျ။ သစ်ရွက်၊ သစ်မြစ်တွေကိုတော့။ အခြောက်လှမ်း၊ အမှုန့်ထောင်းပြီး ဆေးတောင့်တွေလုပ်တယ်။ ဆေးတောင်ဝှေးတို့ကို ပန်းပုဆရာနဲ့ နဂါးခေါင်းလက်ကိုင်တွေထုတယ်ဗျ။ ပြီးတော့မှ ပေါ်လစ်တင်တယ်။ နဂါးခေါင်းကိုတော့ ရွှေပိန်းချတာဗျ။

သစ်စုန်းဆိုတာ တော်တော်ကိုထူးတဲ့ သစ်သားပဲဗျ။ အားလုံးလုပ်ကိုင်ပြီးတော့ ဆရာတော်ကို သစ်စုန်းဆေးတော်တစ်တောင့်နဲ့ နဂါးခေါင်းတောင်ဝှေးတစ်ချောင်းလှူတယ်။

[illegible]ကိုတော့ သစ်စုန်းဆေးတော်တစ်တောင့်နဲ့ မျက်ကွင်းဆေး တစ်[illegible]ပေးတယ်။ မြေဆေးဥပါပေးတယ်ဗျ။ သီလသမာဓိရှိသလောက် ကာတိလည်းအင်မတန်တည်တဲ့ ဆရာကြီးပါပဲဗျာ။

ဆရာကြီး စိုင်းနွံဖြစ်သွားပြီး တစ်နှစ်လောက်ရှိတော့ ဘန့်ရွှေကုန်းကို လူတစ်ယောက်ရောက်လာတယ်ဗျ။ ဒီလူက ကဝေဆိုပဲ။

အရှေ့ဘက်ကောင်းကင်

ကျုပ်လည်း မသိပါဘူးဗျာ။ တစ်ရက်ကျုပ်ဆီကို ဘန့်ဘွေးကုန်းက ကျောက်နီဆိုတဲ့ကောင် ရောက်လာပြီးပြောလို့သိတာဗျ။

"ဟာ ပေါ့ကောင် ကျောက်နီ၊ ဘာဖြစ်လာတာတုံး"

"ကိုဘာတေဆီကိုပဲလာတာပါဗျာ၊ ကိစ္စနည်းနည်းရှိလို့ဗျ"

"အေး...လာလေကွာ"

ကျုပ်ထိုင်နေတဲ့ မန်ကျည်းပင်အောက်က ကွပ်ပျစ်ပေါ်ကို ခေါ်လိုက်တယ်။

"ဟဲ့...ဒါဘန်ဘွေးကုန်းက ကျောက်နီမို့လား"

ကျုပ်အမေက အိမ်ပေါ်ကနေပြီးတော့ ကျောက်နီကို လှမ်းနှုတ်ဆက်တယ်။

"ဟုတ်ပါ့ အရီးရေ၊ အဘတို့ အရီးတို့ နေကောင်းကြရဲ့လားဗျ"

"အေး ကောင်းပါတော်၊ နင့်အမေ စိန်ကြည်ရော နေကောင်းရဲ့လား ဟဲ့ ကျောက်နီ"

"ဟိုတစ်လောကတော့ နည်းနည်းဖျားသေးတယ် အရီးရဲ့ အခုတော့ ကောင်းသွားပါပြီ"

"အော်...အေး...အေး...ခဲဒီမှာ နင့်အကိုတာတေနဲ့ဆိုင်ကြ။ အရီး ရေနွေးကြမ်းထည့်လိုက်ဦးမယ်"

ကျောက်နီကျုပ်နားမှာ ဝင်ထိုင်တယ်ဗျ။ ခဏကြာတော့ အမေက လက်ဖက်သုပ်နဲ့ ရေနွေးကြမ်းယူလာပြီး တည်တယ်ဗျ။

"အဲကြမ်းလေးသောက်ရှင်း၊ လက်ဖက်စားရင် ညီအစ်ကိုတွေ စကားပြောကြပေါ့။ အရီးအနောက်ဖိုင်းက ကျော်မောင်တို့ကို ခေါ

သွားလိုက်ဦးမယ်။ ဒီကောင်တွေ ဝက်ပေါ်မယ် ပြောတယ်။ ပေါ်ဖြစ် သလားသွားမေးလိုက်ဦးမယ်။ ကျောက်နီထမင်းစားပြီးမှ ပြေးပြေးပြန် သိလား"

"ဟာ...မစားတော့ပါဘူး အဒိုးရာ"

"အောင်မယ်တော် စိန်ကြည့်သွားက ငါ့အိမ်ကိုရောက်ပြီးမှ ထမင်းမစားဘဲ ပြန်လို့ရမလားဟဲ့ ကဲ ထိုင်ဦး အရိုးမကြာဘူး။ ခုပဲ ပြန်လာခဲ့မယ်"

ပြောပြောဆိုဆို အမေက တဘက်တလေးတစ်ထည် ခေါင်းပေါ် တင်ပြီးထွက်သွားတယ်ဗျို့။

"ကဲ ကျောက်နီပြောပါဦးကွ ဘာကိစ္စများလဲ"

"ဒီလို ကိုတာတေရေ ကျုပ်တို့ ရွာမှာလူထူးလူဆန်းတစ်ယောက် ရောက်နေတယ်ဗျ"

"ဟာ ဟုတ်လား ဆရာလားကွ"

"အင်း ဆရာလို့ ပြောရမလား၊ ဘိုးတော်ခေါ်ရမလားတော့ မသိပါဘူးဗျာ။ စွမ်းတော့ လွန်စွမ်းတာ ကိုတာတေရေ"

"ဟာ...ဟုတ်လားကွ ကျောက်နီ ဘာတွေ စွမ်းလို့တုံးဗျ။ ငါ့ကို လည်းပြောပြပါဦးဟ"

"ဒီလူရောက်တုံးက ရွာထဲမဝင်ဘူးဗျ။ သချိုင်းကုန်းထဲက ဇရပ် မှာနေတာဗျ။ ရွာသားတစ်ချို့က ဘာလဲဆိုပြီး သွားအကဲခတ်တဲ့ အချိန် မှာ ဒီလူက အစွမ်းပြတော့တာပဲဗျ"

"အင်း...ဘယ်လိုအစွမ်းပြတာတုံးကွ"

"မြွေတွေခေါ်တာဗျ မြွေတွေ"

"ဟင်…မြွေကို ဒီလူက ခေါ်လို့ရသလားကွ"

"ရပါဗျာ။ ရွာက ကိုအောင်ဘော်ကြီး ကျုပ်ကို ပြန်ပြောပြတာဗျ။ ပထမဆုံး ဒီဆရာက ဂါထာတွေဘာတွေရွတ် ခေါ်လိုက်တာက တစ်ထွာလောက်ရှိတဲ့ မြွေနီနီရဲရဲကလေးတစ်ကောင်ရောက်လာတာဆိုပဲဗျ။ အဲဒီမြွေနီကလေးက သားပေါက်ကလေးပေမဲ့ ဒီနယ်မှာရှိသမျှ မြွေဆိုးတွေရဲ့ အချုပ်လို့ ပြောတယ်တဲ့။ အဲဒီမြွေနီကလေးကို ဒီဆရာက လူတစ်ယောက်နဲ့စကားပြောသလိုကို ပြောတာတဲ့ဗျာ။ ငါ မြွေဟောက်ဘယ်အရွယ်နှစ်ကောင်နဲ့ မြွေပွေးဘယ်အရွယ် တစ်ကောင်လိုချင်တယ်။ မင်း အခုချက်ခြင်း လွှတ်ပေးရမည်လို့ အမိန့်ပေးခိုင်းလိုက်တာတဲ့ဗျ။ မြွေနီကလေးကလည်း လူစကားကိုကောင်းကောင်းနားလည်နေတဲ့ပုံ တဲ့ဗျို့။ ချက်ချင်းလှည့်ထွက်သွားပြီး သိပ်မကြာဘူးတဲ့ဗျာ။ အဲဒီဆရာ ပြောတဲ့အတိုင်း မြွေဟောက်ကြီးနှစ်ကောင်နဲ့ မြွေပွေးကြီးတစ်ကောင် ရောက်လာကြတယ်ဆိုပဲဗျ။

အဲဒါ ဒီဆရာက 'အေး…မင်းတို့ ရောက်လာပြီလား။ တိတ်ခဲ့၊ စရပ်ပေါ်တက်ခဲ့'လို့ ခေါ်လိုက်တော့ မြွေသုံးကောင်တက်လာကြတယ် ဆိုပဲဗျ။ ကိုအောင်ဘော်ကြီးတို့ဆိုတာ ကြောက်လွန်းလို့ အသက်ကို အောင့်ထားနေကြတယ်ဆိုပဲဗျ။

မင်းတို့သုံးကောင် ဟိုနေရာမှာ ငြိမ်ငြိမ်သွားနေကြလို့ လက်ညှိုးထိုးပြလိုက်တော့ မြွေတွေက လူ့စကားကို နားလည်နေတဲ့ အတိုင်းပဲဗျာ။ သွားပြီးခွေနေကြတာ လှုပ်ကို မလှုပ်တော့ဘူးဆိုပဲ။

"ဒီတော့မှ အဲဒီဆရာကပြောတယ်တဲ့။ သူ ဒီည တရားထိုင်တဲ့ အချိန်မှာ သူ့ကိုစောင့်ရှောက်ဖို့ ခေါ်တာပါတဲ့ဗျာ"

"ဟာ...ဒီလောက်ကို စွမ်းတာလား ကျောက်နီရဲ့"

"အဲဒါနဲ့ ကိုအောင်သော်ကြီးတို့လည်း အဲဒီဆရာကို ရှိခိုးကြတော့ တာပေါ့ဗျာ။ သူတို့ ပြန်လာတော့ ရွာထဲမှာ ဒီသတင်းကပျံ့သွား တော့ တာပေါ့။ တစ်ချို့ကလည်း သချိုင်းကုန်းထဲသွားပြီး မယောင်မလည်နဲ့ သွားပြီး အကဲခတ်ကြတာပေါ့ဗျာ။ ဒီမှာတင် ပိုပြီး အံ့သြစရာတွေ တွေ့လာကြတော့တာဗျို့"

"ဟေ...ဘာတွေ တွေ့လာလို့လဲကွ"

"ကိုတာတေရေ မြွေကြီးနှစ်ကောင်က အဲဒီဆရာ တရားထိုင်နေ တဲ့ ခေါင်းပေါ်က ထုတ်တန်းကြီးမှာ ခွေနေကြတာတဲ့။ တစ်ကောင်က ဆရာရဲ့ လည်ပင်းမှာ ပတ်ပြီး ငြိမ်နေတာတဲ့ဗျာ။ ဆရာကတော့ တရား ထိုင်တောင်မပျက်ဘူးဆိုပဲ"

"အော်...တော်တော်တော့စွမ်းတာပဲကွ"

"အင်း...နောက်တစ်နေ့ မိုးလင်းတော့ ကျုပ်တို့ဘန်ဒွေးကုန်းက ရွာသားတွေ သူ့အိမ်ကြွပါ၊ ငါ့အိမ်ကြွပါနဲ့ ဆရာကိုသွားပြီး ပင့်ကြတာ အလုအယက်ပေါ့ဗျာ"

"ဟေ...ဟုတ်လား ဒါထက် ဒီဆရာရောက်နေတာ ဘယ် လောက် ကြာပြီလဲကွ"

"တစ်ပါတ်လောက်တော့ ရှိပြီဗျ"

"မြွေတော့ လွှတ်နိုင်တဲ့လူဗျ ကိုတာတေရ"

ဟိုတစ်နေ့ကတင် ကျုပ်တို့ရွာသား ဦးမွှားကြီး ဝိုးထိပါရော လားဗျ။ အဲဒီဆရာကြွလာပြီး မြွေကိုက်တဲ့ ခြေထောက်အောက်မှာ ၄က်ပျောဖက် ခင်းခိုင်းပြီး အမိန့်ပြန်လိုက်တာ ကိုက်တဲ့မြွေဟောက်ကြီး ရောက်လာပါရောဗျ။ မင်းအဆိပ်တွေ မင်းအကုန်ပြန်စုတ်ယူသွားလို့ ဆရာက အမိန့်ပေးလိုက်တော့ မြွေဟောက်ကြီးဟာ။ သူ့အစွယ်ရာ ကနေ အကုန်စုပ်ယူပြီး ၄က်ပျောဖက်ပေါ်ကို အံ့ချရတယ်တဲ့ဗျာ။ ဦးမွှား ကြီးလည်း အခုအထိဘာမှကို မဖြစ်တော့ပဲ ယာထဲပြန်ဆင်းနိုင်နေပြီဗျ"

"အင်း...မင်းရဲ့ဆရာက အထက်လမ်းဆရာတော့ မဟုတ် လောက်ဘူးကွ ကျောက်နီရ။ အောက်လမ်းပဲ ဖြစ်လိမ့်မည်။ နောက် ထပ်လည်း မင်းတို့ရွာသားတွေ မြွေကိုက်ခံရနိုင်သေးတယ်ကွ"

"ဗျာ ဘာဖြစ်လို့လဲ ကိုတာတေရဲ့"

"အဲဒီမြွေကို သူကိုယ်တိုင်ပဲ အကိုက်ခိုင်းပြီးတော့ သူပဲ အဲဒီမြွေ ကို ခေါ်ပြီးအဆိပ်စုပ်ခိုင်းနဲ့ ချက်ခြင်း နာမည်ကြီးတဲ့နည်းပေါ့ကွာ"

"ဟာ...ကျုပ်တို့ ကိုတာတေတွေးသလို မတွေးမိပါဘူးဗျာ။ ဒါ ကြောင့်လည်း ခင်ဗျားကို အားကိုးတာဗျ။ ခင်ဗျားကတော့ မဟုတ်သူတ များတဲ့သူဆိုတာ ကျုပ်က သိထားတာလေ"

"အေး...ပြောပါဦး ကျောက်နီရ။ အခုလာတဲ့ကိစ္စက ဒီလူ့ အကြောင်းပြောရုံပဲလား"

"ဒီလိုလဲ မဟုတ်သေးဘူးဗျ။ အဲဒီဆရာကို မနက်ဖြန် နေ့လည် ရော ဘုန်းကြီးခွေမ်းကပ်သလိုကို ကျုပ်တို့ရွာသားတွေက ကျွေးမွေး ပူဇော်နေကြတာဗျို့။ ဒီဆရာက ညစာတော့ မစားဘူးဗျ။ သူက ကိုးနဲ့ သီလနဲ့ နေတာဆိုပဲဗျ"

"အင်း...အောက်လမ်းဆရာတွေကိုတော့ သတိထားရမယ် ကျောက်နီ။ စိတ်ချလို့ မရဘူးနော်"

"အဲဒါကိုကျုပ်ပြောချင်တာဗျ။ ကျုပ်တို့ရွာက အရိုးမဝက်ရဲ့ သမီး ပေါက်စမကို ကိုတာတေသိတယ်မို့လား"

"ပေါက်စမတို့ သိတာပေါ့ ကျောက်နီရဲ့။ မင်းတို့ရွာကို ငါလာတိုင်း ချိုနေကြကလေးမလေးပဲဟာ"

"ဟုတ်ပ ကိုတာတေရေ အဲဒီပေါက်စမက အခုအပျိုကြီးဖားဖား ဖြစ်နေပြီဗျ။ ရုပ်ကလေးကလည်း ရှိတယ်။ ကိုယ်လုံးကိုယ်ထည်က လည်း ထွားထွားကျိုင်းကျိုင်းဗျ"

"အေး...အဲဒါဘာဖြစ်လို့တုံး ကျောက်နီရဲ့"

"အဲဒီဆရာက ပေါက်စမကိုတွေ့တော့ အထင်ရောတော့တာပဲ ဗျာ။ ကျုပ်အမေက အခြေအနေကို ရိပ်မိတော့ ပေါက်စမကို ကျုပ်တို့ အိမ်ခေါ်ထားရတယ်ဗျ။ ပေါက်စမက အမေ့မြေးတော်သေးတာကိုး ကိုတာတေရဲ့။ အရိုးမဝက်ဆ အမေ့တူမ နှစ်ဝမ်းကွဲလေဗျာ"

"အော်...ဒီလိုလား၊ အဲဒါကြောင့် ငါပြောတာကွ။ ဒီအောက်လမ်း ဆရာတွေမှာ လူကိုကောင်းကျိုးပေးနိုင်မဲ့ ပညာမရှိဘူးကွ။ ဒုက္ခပေးနိုင်တဲ့ ပညာပဲရှိတာ"

"အခုတော့ ရွာသားတွေလည်း နည်းနည်းတော့ သတိထားနေကြ ပြီဗျို့"

"နေပါဦးကွ။ ဒါထက် ဒီဆရာက ဘယ်ကလာတာတဲ့တုံး"

"ရန်ကုန်ကလို့ ပြောတယ်ဗျ။ ဗမာပဲဗျ။ အသားဖြူဖြူ ရုပ်ချော

ချော့ပဲ။ မသိသာ မသိရင်တော့ သူ့ကိုဘယ်လိုမှ အောက်လမ်းဆရာလို့ ထင်စရာ မရှိပါဘူးဗျာ"

"ဟင် ဟုတ်လားကွ"

"သူပြောတာတော့ သူက အစိမ့်ခွာနီကျင့်စဉ်တစ်ခုကို လိုက်နေတာတဲ့ဗျ။ သူ့ကျင့်စဉ်မှာပါတဲ့ အရပ်ဒေသတွေကို မရရအောင် ရှာဖွေပြီး ကျင့်စဉ်လုပ်ရတာဆိုပဲ"

"အော်...သူ့ကျင့်စဉ်က ဘာကျင့်စဉ်လို့ ပြောသေးလဲ တျောက်နီရဲ့"

"သူပြောတာကတော့။ သူဟာ ကုန်းကြီးကိုးကုန်းလည်း အောင်ပြီးပြီတဲ့။ နတ်ရဲကိုးမင်လည်း အောင်ပြီးပြီတဲ့။ အခုကျင့်တာနောက်ဆုံး အဆင့်တဲ့ဗျ။ ကိုးကျင်း ကျင့်စဉ်တဲ့ဗျို့။ သင်္ချိုင်းကိုးခုပြည့်အောင် သွားပြီး သင်္ချိုင်းထဲမှာ မြေကျင်းတူးပြီး ကျင့်ရတာတဲ့ဗျ။ အစိမ့်ခွာနီအောင်ရင် မြေမှိုထားတဲ့ ကျင်းထဲကနေ အလိုလို ပွင့်ထွက်လာတာတဲ့ဗျား"

"ဟာ...တယ်ဟုတ်ပါလားကွ"

"အဲဒါ သူ ရှစ်ကျင်းအောင်ပြီးသွားတဲ့ဗျာ။ အခု ဒီဘန့်ဆွေးကုန်းသင်္ချိုင်းဟာ။ သူ့တည့်ချိန်းမှာပါတဲ့ နောက်ဆုံးသင်္ချိုင်းတဲ့။ ဒီကျင်းအောင်ရင် သူဟာ ကိုးကျင်းအောင်တဲ့ ကိုးသင်္ချိုင်းကာမဝ ဖြစ်ပြီဆိုပဲဗျ"

"ဟာ...ကြောက်စရာလှပါလားကွ"

"ကိုးသင်္ချိုင်းကာမဝဖြစ်ရင် ဘာတွေဖြစ်မှာတဲ့တုံးကွ"

"သူပြောတာတော့ ကဝေတကာရဲ့ အချုပ်ကြီး ဖြစ်မှာဆိုပဲဗျ။ သူလက်ညှိုးညွှန်ရာရေဖြစ်ပြီလို့ ပြောတာပဲဗျာ။ ကျုပ်လည်း သိပ်ကောင်နားမလည်ပါဘူး"

"ဒီလူဟာ ကာရေအစစ်ပဲကွ"

"အခု ကျုပ်ဒီကိုလာတာ အကြောင်းရှိတယ်ဗျ ကိုတာတေရ အဲဒီ ဆရာကပြောတယ်။ သူ့အခုလာမဲ့ လကွယ်ညမှာ နောက်ဆုံးကျင်းဝင် ရမယ်တဲ့။ အဲဒါ သူ့ကိုလေးတောင်ဝတ်လည် မြေကျင်းတစ်ကျင်း သချိုင်းကုန်းထဲမှာ တူးပေးကြပါတဲ့။ ပြီးရင် သူက ကျင်းထဲဝင်မယ်။ သူ့ကျင့်စဉ်ကို ကျင့်မယ့်ညသန်းခေါင်ယံတိတိမှာ သူ့ကိုဆေးသုံးလုံး ပေါက်ပေးရမယ်တဲ့ဗျ။ အဲဒီအချိန်မှာ အနှောက်အယှက်က မျိုးစုံလာ နိုင်တယ်ဆိုပဲ။ ဘာဖြစ်လို့လဲဆိုတော့ ဒီကျင်းဟာ သူ့အတွက် ကိုး ကျင်းမြောက် ဖြစ်နေလို့တဲ့။ ကိုးသချိုင်းကာဓေ ဖြစ်တော့မှာမို့လို့ အဖျက် အဆီးတွေက အများကြီးကြုံရမှာတဲ့ဗျာ။ အဲဒါ သတ္တိကောင်းတဲ့ လူ တစ်ယောက်ရှာပေးပါတဲ့"

"အော်...ဒီလိုကိုး"

"အဲဒီတော့ ကျုပ်တို့ရွာသားတွေက ကိုတာတေအကြောင်းတွေ ပြောပြကြတာပေါ့ဗျာ။ ဒီမှာတင် အဲဒီဆရာက ကိုတာတေကို အကူ အညီတောင်းပေးဖို့ ပြောတော့တာပဲဗျ။ ငွေကြေးအလိုရှိရင် လိုသ လောက် သူပေးပါမယ်တဲ့ဗျာ"

"ဟာ...ကျောက်နီရာ ငါ ဒီလိုမျိုးကာဝေတစ်ယောက်ကိုတော့ မကူညီချင်ဘူးကွာ"

"ကျုပ်လည်း ဒီလိုပါပဲဗျာ။ ဒါပေမဲ့ ဒီလူကိုစူမြန်မြန်ပြီးသွားပြီး ကျုပ်တို့ရွာက မြန်မြန်ထွက်သွားစေချင်နေတာဗျ။ ကြာရင် တခြားလူ နဲ့ ဘာမှမဖြစ်ပဲ ကျုပ်နဲ့ဖြစ်လိမ့်မယ်။ ကျုပ်ကတော့ ကာဝေသောပါသော

နားမလည်ဘူး ကိုတာတေရေ၊ ကိုင်းခုတ်ဓားနဲ့ ကျွေးလွှတ်လိုက်မှာပဲ ကျုပ်ဓားနဲ့ တွေ့လို့ကတော့ ခေါင်းတစ်ခြား ကိုယ်တစ်ခြား ဖြစ်သွားစေရမယ်ဗျာ"

ကျုပ် သက်ပြင်းချလိုက်မိတယ်

"စဉ်းစားပါဗျာ ဖြစ်နိုင်ရင် ကူညီပါ ကိုတာတေရာ အဲဒီညကျရင် ကျုပ်ပါလိုက်မှာပါ။ ပြီးတော့ ကျုပ်ညတိုင်းသွေးထားတဲ့ ကျုပ်ရဲ့ ကိုင်းခုတ်ဓားကြီးလည်း ယူလာမှာ။ ကိုတာတေကို ဒီလူစာချင်ရင် လုပ်လို့ကတော့ ကျုပ်ဓားနဲ့ ပြေးပိုင်းချလိုက်ပြီးသားပဲဗျာ"

ကျုပ် ကျောက်နီကို ရှည်ကြည့်လိုက်မိတယ်။ ပြောရရင် ကျောက်နီပြောသလိုပဲ။ ရွာကလူတွေကို ခုကွဲလေးမှာ စိုးရှတယ်။ အရှုံးသစ္စင့်တော့ မိန်းကလေးတွေကိုဝေါ့ဗျာ။ ဒီလူတွေမှာ ဆေးဝါးက အစုံရှိတာဗျ။ တကယ်ဖွမ်းတဲ့ကဝေမှန်ရင် တို့ဆေးတို့ဘာတို့ အကြီးစွမ်း ငါ့ဆိုပဲ။ ကျုပ်ဆရာကြီး ဦးနွံဖကျုပ်ကို ပြောပြဖူးတယ်ဗျ။

"ကဲဗျာ...ကျောက်နီ ငါလုပ်ပေးမယ်။ အဲဒီည ဆေးလုံးပေါက်တဲ့ ကိစ္စကို ငါတာဝန်ယူတယ်ကွာ"

"ဟာ...ဟုန်ကျပြီ ကိုတာတေရာ။ အဲဒီည ဒီလူနဲ့ကျုပ်တို့ ညီအစ်ကိုလိုက်သွားမယ်ဗျာ။ အခြေအနေမဟန်ရင်တော့ ဒီလူကို ကျုပ်ဓားနဲ့ပြေးပိုင်းပစ်လိုက်မယ်ဗျာ"

"ဟာ...မလိုက်ရပါဘူးကွာ။ ငါတစ်ယောက်တည်း လိုက်ရပါတယ်"

"ဒါဆိုရင် လကွယ်နေ့ ညနေကို ရောက်အောင်လာခဲ့ ကိုတာတေရာ"

"အေးပါ...အဲဒီနေ့ ညနေလေးနာရီလောက် ငါအရောက်လာခဲ့မယ်။ မင်းတို့ဆရာကိုသာ သေသေချာချာ ပြောထားပါ။ ငါဆက်ဆက်လာခဲ့မယ်လို့။ ဒေါ်ဒါထက်၊ အဲဒီဆရာက နာမည်ဘယ်သူတဲ့တုံးကွ"

"တောင်ဇဥ်နဂါး ကိုတက်ခါးတဲ့ဗျား"

"အော်...ကိုတက်ခါးပေါ့"

"အေးပေါ့ဗျာ...ဒါဆိုရင် ကျုပ်လည်း စောစောပြန်လို့ ရတာပေါ့ ကိုတာတောရ့"

"ဟာ မပြန်နဲ့ဦးကွ။ မင်းထမင်းမစားဘဲ ပြန်သွားရင် အမေစိတ်ဆိုးလိမ့်မယ်။ ထမင်းအဝစား တစ်ရေးတစ်မောအိပ်ပြီး ညနေမှ ပြန်ပါကွာ ကျောက်နီရာ"

"အဲဗျား...ပြောရင်းဆိုရင်း အရီးငွေစိန်တောင် ဝက်သားတွဲကြီးဆွဲပြီး ပြန်လာနေပြီဗျို့"

"အေး...အဲဒါကြောင့် ငါပြောတာကွ"

အဲဒီနေ့က ကျောက်နီအိမ်မှာပဲ ထမင်းစားတယ်။ ကျုပ်အမေက ဝက်သားချက်လွှတ်ကောင်းတာဗျ။

ကျုပ်ဆိုတဲ့ ကောင်ကလည်း အထူးအဆန်းတွေ့ရမယ်ဆိုရင် သိပ်စိတ်ဝင်စားတာကလားဗျာ။

လကွယ်နေ့ ရောက်ကတည်းက ဖင်တကြွကြွ ဖြစ်နေတော့တာဗျ။ ညနေ (၃) ချက်တီးလောက်ကတည်းက ကျုပ်တစ်ယောက်တည်း ဘန့်ဘွေးကုန်းကို ထွက်ခဲ့တာဗျို့။

အမေနဲ့ အဘကိုတော့ ကျုပ် ဒီည ဘန့်ဘွေးကုန်းမှာ အိပ်မယ်လို့ပဲ ပြောခဲ့တာပေါ့။

ဘန့်ဘွေးကုန်းနဲ့ ကျုပ်တို့ရွာက ကပ်နေတာဗျ။ နာရီဝက်လောက် လျှောက်ရင်ရောက်တာပါပဲ။ ကျုပ် ဘန့်ဘွေးကုန်းကိုရောက်တော့ အရီးစိန်ကြည်တို့အိမ်ကို တန်းလာခဲ့တာပေါ့ဗျာ။ ကျော့ကော်နီကလည်း ကျုပ်ကိုမျှော်နေတာဗျ။

"ဟာ...ကိုတာတေလာပြီ။ ကျုပ်မနက်ကတည်းက ကိုတာတေကို မျှော်နေတာဗျ"

"ဟာ...ကိုတာတေ ကျုပ်ကို မှတ်မိသေးလား"

"ဟဲ...ဒါ ဘယ်သူတုံး ကျော့ကော်နီ"

"ဟား...ဟား...ဟား...ကိုတာတေ မမှတ်မိဘူးဗျလား၊ ဒေါ်တေမလေး ကိုတာတေ"

"ဟဲ့...ဒါပေါက်စမလား၊ ငါ့စိတ်ထဲမှာနင့်ကို ပိစိလေးပဲမြင်နေတာ ဟဲ့"

"ဟာ...တာတေရောက်ပြီလား၊ လာ လာ အရီးက ဒီမှာထမင်းတွေ ဟင်းတွေ အဆင်သင့်ကို ချက်ထားတာပေါ့"

"စားမှာပေါ့ အရီးရယ် ဒါထက် အရီးနေကောင်းရဲ့လား"

"ကောင်းပါတယ် ဟိုတစ်လောကတော့ ဖျားလိုက်တာ တော်တော်ခံလိုက်ရတာ တာတေရဲ့၊ အခုတော့ ကောင်းသွားပါပြီ"

"ကိုတာတေရေ ရွာထဲက ကိုအောင်ဘော်ကြီးတို့တော့ ဆရာကို တက်ခါးအတွက် မြေကျင်းကြီးတစ်ခုတူးနေတာကြတာ ပြီးသွားလို့ ခုနကပဲ ပြန်လာကြတယ်ဗျ။ ကိုတာတေရောက်ပြီလားလို့တောင် မေးသွားသေးတယ်"

"အင်း...ဒါဆိုရင် ဒီဆရာက ဒီည လုပ်မှာသေချာတာပေါ့"

"ဟာ...သေချာတယ်ဗျ။ ကိုတာတေသူ့ကိုလာပြီး ကူညီပေးမယ် ဆိုလို့ ဇမ်းသာနေတာဗျ။ ဒီညနေ့ ကျုပ်အောင်ပြီလို့ ကိုတက်ခါးက တဖွဖွပြောနေတာ"

"ဟုတ်လား ဒါဆိုရင် ငါ သူနဲ့သွားတွေ့လိုက်မယ်လေ။ ဒါမှ သူလည်း စိတ်အေးသွားမှာပေါ့ကွာ"

"သွားမယ်လေ ကိုတာတေ"

ကျုပ်နဲ့ ကျော်နီ ရွာထဲကို လျှောက်လာခဲ့တယ်။ ဘနံ့အွေး ကုန်းကလူချမ်းသားတစ်ယောက်ဖြစ်တဲ့ ဦးကြက်ဖရဲ့အိမ်မှာ ဆရာကို တက်ခါးက တည်းတယ်။

ဆရာကိုတက်ခါးက တည်းတယ်ဆိုပေမဲ့။ ဦးကြက်ဖက အခတင်း ကိုခေါ်ထားတာပါ။ ဦးကြက်ဖရဲ့ အိမ်ဝိုင်းက တော်တော်ကို ကြပ်တာ ဗျ။ အိမ်ကလည်း ကျွန်းအိမ်ကြီး ခေါင်းနှစ်ခုထုတ်လို့။ ရေနံကို မှောင် နေအောင်သုတ်ထားတာ

ကျုပ်တို့ရောက်တော့ အိမ်ကြီးရဲ့ ဘုရားခန်းမှာ လူတွေအုံလို့ဗျ။ ခေါင်းရင်းမှ အကျအနထိုင်နေတဲ့သူကို ကျုပ်တစ်ချက် အကဲခတ်ကြည့် လိုက်တယ်။ လူကတော့ လူပုံချောဗျ။ အသားဖြူဖြူ ပိန်ပိန်ပါးပါး ချက်လုံးမျက်ဖန်ကလည်း ကောင်းကောင်းပဲ။ ဒါပေမဲ့ လက်တွေခြေ တွေမှာတော့ ဆေးတွေထိုးထားတယ်ဗျို့။ အင်းကွက်တွေထင်ပါရဲ့။

"ဟာ တာတေရောက်လာပြီပေါ့။ လာကွ တာတေရ မင်းကို တို့ဆရာက မျှော်နေတာ၊ လာ လာ ဒီရှေ့ကိုလာ"

ဦးကြက်ဖကြီးက ကျုပ်ကိုမြင်တော့ ဝမ်းသာအားရလှမ်းပြော လိုက်တာကိုး။ ဆရာကိုတက်ခါးက ကျုပ်ကို ဆတ်ခနဲ လှမ်းကြည့် တယ်ဗျ။

ပြီးတော့ ချက်ချင်းကိုပြုံးသွားတာဗျို့။

"ဟား...ဟား...ဟား...မောင်တာတေ ရောက်ပြီကိုး။ ကျုပ်တို့ အောင်ပြီပေါ့ဗျာ။ အောင်ပြီပေါ့"

ကျုပ်အနားကိုရောက်တော့ ဆရာကိုတက်ခါးက ကျုပ်ကိုပြုံးပြီး ကြီးကြည့်တယ်ဗျ။

"မောင်တာတေရေ ဆရာကို နလိုလာပြီး ပါရမီဖြည့်ပေးတဲ့ အတွက် ကျေးဇူးအများကြီးတင်ပါတယ်ကွယ်"

"ဟုတ်ကဲ့ပါဆရာ။ ဆရာပါရမီကို ကျုပ်ဖြည့်ပါ့မယ်"

"အေး...တစ်ခုတော့ ဆရာပြောပြချင်တယ်ကွဲ့...ဆရာတို့ပညာ ခန်းမှာ အသက်နဲ့ရင်းပြီး တက်ခဲ့ရတာတွေချည်းပေါ့ကွယ်။ ဆရာဆို ရင် လူတကာအောင်နိုင်ခဲ့တဲ့ နတ်ရဲဘောင့်တဲ့ အပင်ကြီးကိုးပင်လည်း အောင်ခဲ့ပြီကွဲ့။ ကုန်းကြီး ကိုးကုန်းလည်း အောင်ခဲ့ပြီ။ လှိုဏ်ကြီး ကိုးလှိုဏ် လည်း အောင်ခဲ့ပြီ။ ပြီးတော့ အမြင့်ဆုံးဖြစ်တဲ့ ရှစ်သချိုင်း၊ ရှစ်ကျင်း ထွက်ခဲ့ပြီကွဲ့။ ဒီတစ်ကျင်းထွက်ရင် ကိုးကျင်းထွက်ဖြစ်ပြီပေါ့ မောင်တာ တေ၊ ဒါဟာ နောက်ဆုံးကျင်းပဲကွဲ့။ ဒီတော့ ဆရာ့အတွက် သေရေး ရှင်ရေးပါပဲကွယ်"

"ဟုတ်ကဲ့ပါဆရာ ကျုပ်ကတော့ ဘာပဲရှင်ဆိုင်ရ၊ ရင်ဆိုင်ရ မမှုပါဘူးဗျာ"

"အေး...အဲဒီကိစ္စကိုပြောဦးမယ်။ မောင်တာတေရဲ့"

"ကျုပ်ရဲ့ နောက်ဆုံးအဆင့် ကိုးကျင်းထွက်တဲ့ပွဲမှာ အဖျက်အဆီး ကတော့ ကြီးကြီးမားမားကို ကြုံရမှာကွဲ့။ အဲဒါ မောင်တာတေအပေါ်မှာ ကျုပ်အသက်မှုတည်နေတယ်"

"ဗျာ...ဘာယ်လိုကြောင့်လဲဆရာ"

"ဒီလိုလေ...မောင်တာတေရဲ့။ မောင်တာတေက ကျုပ်ကို ဆေး လုံးပေါက်ပေးရမှာလေ။ မောင်တာတေသာ ဆေးသုံးလုံးကို ပြည့် အောင် မပေါက်နိုင်ရင် ကျုပ်တော့ သွားရောကွဲ့"

"ဟာ ဒီအတွက်တော့ နည်းနည်းမှုကို မပူနဲ့ဆရာ"

"ကျုပ်အားရှိလိုက်တာ၊ မောင်တာတေရယ်၊ အနှောက်အယှက် တွေက မောင်တာတေဆေးလုံးသုံးလုံးပြည့်အောင် မပေါက်နိုင်အောင် နှောက်ယှက်ကြမှာ သေချာတယ်ကွဲ့"

"အို...ကြုံကြိုက်သလောက်နှောက်ယှက်ပါစေ။ ကျုပ်ဆေးသုံးလုံး ပြည့်အောင် ပေါက်ပေးပါမယ်"

"ကဲ...ကျုပ် စိတ်ချပြီဗျာ၊ ကဲ မောင်တာတေ ကျုပ်ကို မေးစရာ ရှိတာမေးပါ"

"တခြားတော့ မေးစရာမရှိပါဘူးဆရာ။ ဒီပညာတွေဟာ ဘယ် လောက်အစွမ်းထက်တယ်ဆိုတာ သိချင်တာပါဆရာ"

ကျုပ်က ဆရာတိုတက်ခါးကို မေးလိုက်တော့ ဝိုင်းအုံကြည့်နေ တဲ့ လူတွေက ကျုပ်ကိုလှည့်ကြည့်ကြတယ်ဗျ။

"အင်း...မောင်တာတေသိချင်တာကို ဆရာဖြေပါ့မယ်။ ဒါပေမဲ့

ပါးစပ်နဲ့တော့ မဟုတ်ဘူးကွဲ့ လက်တွေ့ပေါ့၊ ကဲ...ကိုကြက်ဖကြီး ခင်ဗျားလည်း ဆရာနဲ့တစ်နေလုံးတလားဆိုင်ပြောနေတာကြာလှပြီ ဆာရောပေါ့။ ခေါက်ဆွဲကျော်နဲ့ ကရင်ခေါက်ဆွဲကလေး မသောက်ချင်ဘူးလားဗျ"

"ဟဲ၊ ဟဲ၊ ဟဲ၊ ဟဲ"

ဦးကြက်ဖကြီးက ဘာမှမပြောဘဲ ရယ်နေတယ်ဗျ။

"ကဲ...ပြောဗျာ စားချင်သလား၊ မစားချင်ဘူးလား"

"ဟာ...စားချင်တာပေါ့ ဆရာရယ်"

"ကဲ၊ ကဲ စားချင်ရင် စားရမှာပေါ့ဗျာ"

"ရှီး...ရှီး...ရှီး"

ဆရာကိုတက်ခါးက လေကိုသုံးချက်ချွန်လိုက်တယ်ဗျ။ ပြီး သော လက်ဝါးဖြန့်ထားလိုက်တယ်။

"ဟာ"

ကျုပ်ရော ဝိုင်းအုံနေတဲ့ လူတွေရော ဟာခနဲဖြစ်သွားတာပေါ့။

ဆရာကိုတက်ခါးရဲ့ ဖြန့်ထားတဲ့လက်ဝါးပေါ်မှာ ခေါက်ဆွဲကြော်ထုပ်ကြီးဗျ။ သေသေချာချာကို ကြိုးနဲ့စီးထားတာ။ ဒါ အပ်နဲ့ဆိုင်ကြော်တဲ့ လက်ရာမဟုတ်ဘူးဗျ။

"ကဲ...ရော...ကိုကြက်ဖကြီး ဖြေပြီးစားဗျာ။

ဦးကြက်ဖကြီးက ခေါက်ဆွဲကြော်ထုပ်ကို ယူပြီး ဖြည်တယ်ဗျ၊ အို...မွှေးကြိုင်နေတာပဲဗျ။ အငွေ့ကလည်း တစ်ထောင်းထောင်းနဲ့ဗျ"

"ဟာ...ခေါက်ဆွဲကြော်စားဖို့ တူမှမပါတာ နေဦး နေဦး ဆရာ တူတောင်းပေးမယ်"

ပြောပြောဆိုဆိုနဲ့ လက်ဝါးကိုဖြန့်ပြီး

"ရှိ"

ခနဲ လေချွန်လိုက်တယ်ဗျ။

"ဟာ"

တူနီနီကလေးတစ်စုံ ဆရာကိုတက်ခါးလက်ထဲ ရောက်နေပြီဗျ။

"ကဲ…ရှေ့စား တူနဲ့၊ အားရပါးရစား"

ဦးကြက်ဖက တူကိုရှိရှိသေသေလှမ်းယူပြီး ခေါက်ဆွဲကြော်စား တော့တာပေါ့ဗျာ"

"အော်…ရေဆာပြေ သောက်ဖို့၊ ကရင်ဆိုတာ အေးအေးလေး မှာဦးမှ"

"ရှိ…ရှိ…ရှိ"

ဆရာကိုတက်ခါးက လေကိုဆက်တိုက်ချွန်လိုက်ပြီး လေထဲမှာ လှမ်းဖမ်းလိုက်တယ်ဗျ။

"ဟာ"

အားလုံးဟာခနဲ ဖြစ်ကြပြန်ရောဗျို့။ ကရင်ဆိုတာ ပုလင်းဗျ။ ဆရာကိုတက်ခါးလက်ထဲမှာ ကိုင်ထားတာလေ။ အေးစက်နေပုံပဲဗျို့။ ပုလင်းနံရံမှာ ရေစက်ကလေးတွေတောင် သီးနေတာလေ။

"ကဲ၊ ဖောက်တံတော့မရှိဘူးဗျ၊ ကြည့်သာဖောက်ကြတော့ဗျာ"

"ပေးဆရာ ကျုပ်ဖောက်ပေးမယ်"

လို့ ကိုဗိုက်ကြီးဆိုတဲ့လူကပြောတယ်။ ပြီးတာနဲ့ ဆရာ့လက် ထဲက ကရင်ဆိုတာပုလင်းကိုယူပြီး သွားသားပီပီ ပါးစပ်နဲ့ကိုက်ပြီး အဖုံးကိုဖွင့်လိုက်ဗျို့။ ဦးကြက်ဖကြီးကတော့ ကြိတ်သောက်တာပဲဗျာ။

အရှေ့ဘက်တောင်ကောင်း

ဘာနဲ့တွေးကုန်းရွာသားတွေကတော့ ဆရာကိုတက်ခါးကို လက်ခုတ်ကလေးတွေ ချီလို့ပေါ့ဗျာ။

"အဲဒါမျိုးပေါ့ မောင်တာတောရယ် ဒါတင်လားဆိုတော့ ဒါက အကောင်းကလေးလုပ်ပြတာပေါ့။ အခုဒီည ကိုးကျင်းအောင်သွားရင် ကျုပ်ကိုယ်လည်း ဖျောက်နိုင်ပြီပေါ့ကွာ။ တခြားအစွမ်းတွေလည်း အများကြီးရလာမှာပေါ့"

"အော်...ဒီအစွမ်းတွေကိုရအောင် ဆရာတို့ ကျင့်ကြံကြရတာကို"

"ဟုတ်ပါတယ် မောင်တာတော။ ကျုပ်တို့ ဒီညရွှေဆေးသုံးလုံးပြည့်အောင် ပေါက်ပေတော့ကွယ်"

"စိတ်ချပေတော့ဆရာ"

ကျုပ်က ညဘယ်အချိန်လာရမလဲလို့ မေးတော့ ဆရာကိုတက်ခါးက ဒီကနေ့အတူတူသွားကြဖို့ပြောတယ်ဗျ။ ကျုပ်က အရိုးစိန်ကြည်အိမ်မှာ ထမင်းမစားလို့ မဖြစ်တဲ့အကြောင်း ပြောပြပြီး ညကြမှ သချိုင်းထဲကိုလာခဲ့မယ်လို့ ပြောရတယ်။

"ဒါဆိုရင်မောင်တာတော ကိုးနာရီမထိုးခင်တော့ အရောက်လာကွာ"

"ဟာ...ရောက်ပါတယ်ဆရာ၊ ကျုပ်ရောက်အောင်လာမှာပေါ့"

"အေး...အေး...ဒါဆိုရင် မောင်တာတော သွားစရာရှိတာသွားပါ"

ကျုပ်လည်း ဘာနဲ့တွေးကုန်းရောက်တုန်း ရွာထဲနည်းနည်းပါးပါးလျှောက်ပြီး နှုတ်ဆက်စကားပြောရသေးတာပေါ့ဗျာ။ ရွာသားတစ်ချို့

ကတော့ ဆရာကိုတာက်ခါးကို အထင်ကြီးလေးစားကြသလို။ တစ်ချို့ ကတော့လည်း အောက်လမ်းကဝေဆိုပြီး အထင်သေးကြရှုတ်ချကြတာ တွေလည်း ရှိတာကို ကျုပ်သိခဲ့ရတယ်။

ဘာပဲဖြစ်ဖြစ် ကျုပ်ကတော့ လုပ်ပေးမယ်ဆိုတာကို ဖြစ်အောင် လုပ်ပေးမဲ့သူပဲလေ။

ကျုပ်နဲ့ ကျောက်နီ အိမ်ပြန်လာပြီး ထမင်းစားကြတယ်။ ပြီးတော့ နဂါးဆေးပေါလိပ်ကလေး မီးညှိပြီး ဖွာနေကြတာဗျ။ အရိုးမစိမ့်ကြည် နဲ့လည်း စကားစမြည်ပြောကြတာပေါ့။

ညမိုးချုပ်လို့တော်တော်ကြာတော့။ ဘန့်အွေးကုန်းက လူငယ် တစ်ယောက်ရောက်လာတယ်ဗျ။

"ကိုကြီးတာတေ ဦးကြက်ဖကြီးတို့ ဆရာတို့ သချိုင်းထဲကို သွား ကြပြီဗျ။ ကျုပ်ကိုပြောခိုင်းလို့ လာပြောတာပါ။ ဆရာကစည်းချရမှာမို့ စောစောသွားတာတဲ့"

"အေး...အေး ပေါက်စ မင်းသွားတော့။ ငါနဲ့ကိုတာတေနဲ့ ကိုးနာ ရီမထိုးခင် အရောက်လာမှာ"

"ဟုတ်ကဲ့၊ ဟုတ်ကဲ့"

ပေါက်စဆိုတဲ့ကောင်က သူ့တာဝန်ပြီးပြီမို့ ခပ်သုတ်သုတ်ထွက် သွားတယ်ဗျ။

ညရှစ်နာရီကျော်တော့ ကျောက်နီနဲ့ကျုပ်နဲ့ ရွာပြင်ထွက်ခဲ့ကြ တယ်။ ကြယ်ရောင်ပဲရှိတဲ့ညမို့လို့ မှောင်ထဲမှာပဲ သချိုင်းဘက်ကို လာခဲ့ ကြတယ်။

ကျုပ်တို့သင်္ချိုင်းကုန်းထဲရောက်တော့ ရှစ်နာရီခွဲပဲ ရှိပါသေးတယ်။ ဧရပ်ပေါ်မှာ ဆရာကိုတက်ခါးက ဆေးလိပ်ကလေးဖွာလို့ဗျ။ ရွာသားတွေကတော့ သူ့ရှေ့မှာကျုံ့ကျုံ့ကလေးတွေ ထိုင်လို့ပေါ့လေ။

ကျုပ်တို့ကို လှည့်ကြည့်ကြတယ်ဗျ။

"လာ...မောင်တာတေရေ မင်းကို ဆရာ မှာစရာ မှာရတော့မယ်"

ကျုပ်က ဆရာကိုတက်ခါးဆီကို သွားတယ်။

"ဒီမှာ မောင်တာတေကို ဆေးသုံးလုံးအပ်ပြီး ကျုပ်က ကျင်းထဲကနေ ပထမဆေးပစ်တော့ဆိုရင် ဟောဒီ အသေးဆုံး အလုံးကို ကျင်းထဲ ပစ်လိုက်ပေတော့။

ခဏကြာမှ ကျုပ်က ဒုတိယဆေးပစ်လို့ အော်လိုက်ရင် ဟောဒီ အလုံးအလတ်ကို ပစ်ပေတော့။

ခဏကြာရင် တတိယဆေးလို့ ကျုပ်က ကျင်းထဲကအော်မယ် မောင်တာတေက ဟောဒီ အကြီးဆုံးဆေးကို ပစ်ပေတော့။ မောင်တာတေ မှတ်ထားရမှာက တတိယဆေးပစ်ပြီးတာနဲ့ ဟောဒီ ဇရပ်ပေါ်ကို ပြေးတက်ပေတော့"

"ဟုတ်ကဲ့ပါဆရာ"

ကျုပ်က သူတို့တူးထားတဲ့ ကျင်းကိုလှမ်းကြည့်တယ်ဗျ။ ဇရပ်ရဲ့ တောင်ဘက်မှာဗျ။ လေးတောင်ကျယ်တဲ့ ကျင်းဗျ။ အနက်လည်း လေးတောင်လို့ပြောတယ်။ ဇရပ်နဲ့တော့ ခြေလှမ်းနှစ်ဆယ်လောက်တော့ ဝေးမှာဗျ။ ကျုပ်က တတိယဆေးပေါက်ပြီးတာနဲ့ ဇရပ်ကိုပြေးတက်ရမှာဆိုတော့ သေသေချာချာကြည့်ရတာပေါ့ဗျာ။

ဒါပေမဲ့ ကျုပ်က ကျောက်နီတို့အိမ်က ထွက်လာကာနီးမှာ ဆရာကြီး ဦးနှံ့ဇပေးခဲ့တဲ့ မျက်ကွင်းဆေးတောင့်ကို ကျောက်ဖျဉ်ဖင်မှာ သွေးပြီး လိမ်းလာတာဗျ။ ရွာကလာကတည်းက ကျုပ်မှာပါလာပြီးသား။ ပြီး တော့ဆရာကြီးကျုပ်ကိုပေးသွားတဲ့ သစ်စုန်းဆေးတောင့်လည်း ကျုပ် အိတ်ထဲမှာပါလာတယ်ဗျ။ ကျုပ်လည်း ကျုပ်ကိုကျုပ် ကာကွယ်ရမှာ ပေါ့ဗျာ။

ကိုးနာရီထိုးကာနီးတော့ ဆရာကိုတက်ခါးက ကျင်းထဲဝင်သွား တယ်ဗျို့။ ကျင်းအောက်မှာက ဖျာကလေးတစ်ချပ်ခင်းထားတယ်။ သူကျင်းထဲဝင်သွားတာနဲ့ ကြိုတင်ပြင်ဆင်ထားကြတဲ့အတိုင်း ကျင်း ပေါ်မှ ပျဉ်ချပ်တွေဖုန်းလိုက်တယ်။ ပျဉ်ချပ်တွေကို စေ့နေအောင်စီတာ ဗျ။ ပြီးတော့ အပေါ်က မြေတွေအုပ်လိုက်တယ်။ မသိရင် လူသေမြှုပ်ပြီး အပေါ်က မြေပုံကလေးလုပ်ထားသလိုပေါ့ဗျာ။ ကိစ္စပြီးတော့ အားလုံး ဇရပ်ပေါ်တက်သွားကြပြီ။ ကျုပ်တစ်ယောက်ပဲ ကျင်းဘေးမှာ ကျန် နေတာပေါ့ဗျာ။ ကျုပ်က ပတ်ဝန်းကျင်ကို အကဲခတ်လိုက်တယ်ဗျ။ အနားက မန်ကျည်းပင်ကြီးတွေပေါ်မှာ လျှာတွဲလောင်းကြီးတွေနဲ့ နှစ် ကောင်ထိုင်နေတယ်ဗျ။ နည်းတဲ့အကောင်ကြီးတွေ မဟုတ်ဘူးဗျ။ လက်ဖက်ရည်ပန်းကန်လောက်ရှိတဲ့ မျက်လုံးနီနီကြီးတွေနဲ့ ကျုပ်ကို စိုက်ကြည့်နေတယ်ဗျ။ ကျုပ်ကလည်း အိတ်ထဲမှာ တွယ်ချိတ်နဲ့ ချိတ် ထားတဲ့ သစ်စုန်းဆေးတောင့်ကို လက်နဲ့ စမ်းကြည့်လိုက်တယ်။ ဒီ သစ်စုန်းဆေးတောင့် ရှိနေသမျှ ဒီကောင်တွေတင် မဟုတ်ဘူး။ ဘယ်လို အကောင်မှ ကျုပ်နားကိုကပ်လို့မရဘူးဗျ။ ဒါကို ကျုပ်ဆရာကြီး ဦးနှံ့ဇမှာသွားပြီးသွားလေဗျာ။

ကျုပ်ဘေးဘက်တွေ လျှောက်ကြည့်တယ်ဗျ။ နာနာဘာဝ အကောင်တွေကတော့ မှောင်ထဲမှာ လှုပ်လှုပ်ရွရွနဲ့ သွားနေကြတာပေါ့ဗျာ။ ကျုပ်တို့ဘက်တော့ မလာဘူးဗျ။

ကျုပ်လည်း ပထမဆုံးပစ်ရမဲ့ ခေါင်းလုံးကို အခွင့်သင့်ကိုင်ပြီး စောင့်နေလိုက်တယ်။ တစ်နာရီကျော်ကျော်လောက် ရှိလာပြီဗျ။ ဆရာ ကိုတက်ခါးဆီက ဘာသံမှကိုမကြားသေးဘူးဗျ။ ကျုပ်တော့ ဒီဆရာ ကို စိုးရိမ်လာမိတယ်။

နောက်ထပ်နာရီဝက်လောက်ကြာတော့ အော်သံကြီး ထွက်လာ တယ်ဗျို့။ မြေကျင်းထဲက အသံဆိုတော့ အသံက အုပ်အုပ်ကြီးဗျ။

"ပထမခေါင်းပေါက် တာတော"

ကဲ...ပစ်ပြီဗျို့။ ပစ်ပြီ။

"ဝုန်း"

"ဟာ"

ရှေ့ပိုင်းကလူတွေ လန့်အော်တဲ့အသံကို ကြားလိုက်ရတယ်ဗျ။ ကျုပ်လည်း နည်းနည်းတော့ လန့်သွားတာပေါ့ ခေါင်းလုံးလည်း ကျင်း ပေါက်ကို မှန်လိုက်ရော ကျင်းထဲက "ဝုန်း"ဆိုတဲ့ အသံကြီးထွက်လာပြီး မီးခိုးတွေအလုံးလိုက်တက်လာတာဗျို့။

ခဏနေတော့ ပြန်ငြိမ်သွားပြန်တယ်ဗျ။ ကျုပ်လည်းဘေးဘီကို လိုက်ကြည့်ရတာပေါ့ဗျာ။ ကျုပ်က မျက်ကွင်းဆေးကွင်းထားတယ်ဆို တော့ နာနာဘာဝတွေကို မြင်နေရတာလေ။ ဒါကို ကျုပ်ကလွဲရင် ဘယ် သူမှ သိကြတာမဟုတ်ဘူးလေ။ နောက်ထပ်တစ်နာရီလောက်ကို ကြာသွားပြန်တာဗျို့။

အရှေ့ဘက်ဆောင်းတင်

"တာတေခွေးပစ်တော့"

ဆရာကိုထက်ခါးရဲ့ အသံကြီးက ဒီတစ်ခါတော့ အကျယ်ကြီးကို ထွက်လာတာဗျို့။

ပစ်ပြီ။ ပစ်ပြီ။ ကျုပ် ပစ်လိုက်ပြီ။

အသင့်ကိုင်ထားတဲ့ ဒုတိယဆေးကို ကျုပ်ပစ်ထည့်လိုက်တယ်။

"ဝုန်း"

"ဟာ"

ကျုပ်တောင် နောက်ကိုခြေတစ်လှမ်း ဆုတ်လိုက်မိတယ်ဗျ။ ကျင်းထဲက "ဝုန်း" ဆိုတဲ့အသံကြီးနဲ့အတူတူ မီးတောက်ကြီးတစ်ခုပါ ကျင်းပေါ်ကို ထွက်လာတာမျိုး။ ဇရပ်ပေါ်က လူတွေ ဒီတစ်ခါတော့ တော်တော်ကိုလန့်သွားတာဗျို့။

"ဟေ့ကောင် တုတ်ပေါ့။ မပြေးနဲ့ အခုပြန်လာ။ ဘာမှတ်လို့လဲ စည်းပေါက်သွားမယ် သိလား"

ဇရပ်ပေါ်မှာတော့ တော်တော်ကို ရှုတ်ရှုတ်သဲသဲဖြစ်သွားပုံပဲဗျ။ ကျုပ်လည်းသချိုင်းအနံ့လိုက်ကြည့်ရတာပေါ့။ ဘာမှတော့ ထူးခြားတာ မတွေ့ဘူးဗျ။ ပြန်ငြိမ်သွားပြန်တယ်။ ကျုပ်လည်း အရေးအကြီးဆုံး ဆိုတဲ့ တတိယဆေးကို အဆင်သင့် ကိုင်ထားလိုက်တယ်။

"အလို မဖဲဝါကြီးရောက်လာပါလား"

ကျုပ်ဘေးကိုတစ်ချက်လှည့်အကြည့်မှာ အရပ်ဆယ်နှစ်ပေ လောက်မြင့်တဲ့ မဖဲဝါကြီးက အုတ်ဂူတွေကြားမှာ မားမားကြီးရပ်ပြီး မြေကျင်းကို တစ်လှည့်ကျုပ်ကို တစ်လှည့်ကြည့်နေတာဗျ။ ဒါကြီးတို့

များ ရေပ်ပေါ်က လူတွေမြင်သွားရင် ရှက်ရှက်သဲသဲကိုဖြစ်ပြီး ပြေးတဲ့လူပြေး ရှူးတဲ့လူ ရှူးသွားမှာ သေချာတယ်ဗျ။

"အဲဒီအကောင်က သူများမရှုနိုင်တယ်။ သူများသားမယားကိုလွန်ကျူးတယ်။ ကံကျိုး၊ ကံပေါက်အကောင်၊ ကိုးချောင်းအောင်သွားရင် လူတွေ ဒုက္ခရောက်လိမ့်မယ်။ ဖျက်အောင်ဖျက်ကြ"

"ဟာ...ဘုရားရေ"

သစ်ပင်ပေါ်ကကောင်တွေ ခုန်ဆင်းလာကုန်ပြီဗျို့။ ကျုပ်လည်း အိတ်ထဲက သစ်စုန်းဆေးတောင့်ကို ထုတ်ပြီးလက်ထဲမှာ ဆုပ်ထားလိုက်တယ်။

"ဟော...အကောင်ကြီးတွေ နောက်ဆုတ်ကုန်ပြီဗျို့။ တော်တော်ကိုစွမ်းတဲ့ ဆေးတော်ပဲဗျာ။ အနားကို ကပ်ကိုမကပ်ရဲတာဗျ။ မဖဲဝါကြီးက ကျုပ်ကို မျက်လုံးနီနီကြီးတွေနဲ့ ကြည့်နေတယ်ဗျ။ သူကိုယ်တိုင်လည်း ကျုပ်နားကို ကပ်လို့ရပုံမပေါ်ဘူးဗျ။ ကျုပ်မြင့်ဆရာကြီးစိုင်းနွံဖကို ကျေးဇူးတင်လိုက်တာဗျာ။

ကျုပ်နားကို ကပ်လို့မရကြတော့။ မဖဲဝါက ဆံပင်ဖားလျားကြီးနဲ့ ကောင်းကင်ကိုမော့ကြည့်တယ်ဗျ။ သူ့လက်ကြီးနှစ်ဖက်ကိုလည်းအပေါ်ကိုမြှောက်ပြီး ဖော့ရမ်းနေတယ်ဗျ။ ဒီတိုးမှာပဲ။

"တာတေ ဆေးပစ်တော့"

အသံနက်ကြီးနဲ့ဗျို့ ကျင်းထဲက ဆရာကိုတက်ခါးအော်လိုက်တယ်။ ကျုပ်မဖဲဝါကို တစ်ချက်စောင်းကြည့်ပြီ၊ တစ်ဝါယဆေးကိုကျင်းထဲ ထည့်၊ ထည့်ပစ်လိုက်တယ်။ ပစ်ပြီးတာနဲ့ ဆရာကို တက်ခါးမှာတဲ့အတိုင်း ရေပ်ပေါ်ကို တစ်ချက်တည်းစွတ်ပြေးရတော့တာဗျာ။

"ဝုန်း...ဝုန်း...ဝုန်း"

ဒီက အသံကြီးက တစ်ချက်မဟုတ်ဘူး။ သုံးချက်ဆင့်ပြီး မြည်သွားတာမျိုး။ ကျုပ်ဇရပ်ပေါ်ကို ရောက်တော့ နောက်ကိုချက်ခြင်း လှည့်ကြည့်တယ်။

"ဟာ"

ကျုပ်ယောင်တောင် အော်လိုက်မိတယ်ဗျ။ မဖဲဝါကြီးရော သူ့အကောင်ကြီးတွေပါ ကျောင်းနားကို တိုးကပ်လာကြတယ်မျိုး။

ကျုပ်ဖြင့် ကျောင်းထဲက ဆရာကိုတက်ခါးကို စိုးရိမ်လိုက်တာဗျာ။ ဒီတုံးမှာပဲ အရိပ်မည်းမည်းကြီးတစ်ခု ထိုးကျလာတယ်ဗျ။ မဖဲဝါကြီးက ကောင်းကင်ကို မော့ကြည့်ပြီး သူ့လက်ကြီးနှစ်ဖက် ဝှေ့ယမ်းနေတယ်ဗျ။

ဒါကို ကျုပ်တစ်ယောက်တည်း မြင်နေရလို့ပေါ့ဗျာ။ ကျန်တဲ့လူတွေသာမြင်ရင်တော့ မလွယ်ဘူးမျိုး။ ဟော...ထိုးကျလာတဲ့ အရိပ်မည်းကြီးက ပိုမည်းလာသလိုပဲဗျာ။ ဟာ...ဘာကြီးလဲဟ။ ဟာ...ငှက်ကြီးထင်တယ်။ ဟာ...ငှက်လည်းမဟုတ်ဘူးဗျ။ အတောင်ပံကြီးအကြီးကြီးကိုဝဲပြီး ဆင်းလာတာမျိုး။ သူရဲကြီးပဲဗျ။ ငှက်မဟုတ်ဘူး။ လက်က လူလက်လိုပဲ။ ခေါင်းက ဆံပင်ဖားလျားကြီးချလို့ဗျ။ မျက်လုံးအနီကြီးတွေက ပြူးထွက်နေပြီး ပါးစပ်ကြီးထဲက အစွယ်ဖွေးဖွေးကြီးတွေက အပြင်ကို ငေါ်ထွက်နေတာမျိုး။

"ကိုးကျင်းအောင်တက်ခါးတဲ့ဟေ့"

ဒီအချိန်မှာပဲ ကျောင်းထဲက ဆရာကိုတက်ခါးရဲ့ ကြုံးဝါးလိုက်တဲ့

အသံကြီးက ကျင်းအပြင်ကိုထောက်ထွက်လာတယ်ဗျို့။ ဟာ...ကျင်းပေါ်မှာ အုပ်ထားတဲ့ မြေကြီးတွေရော၊ မှည့်ရွက်တွေပါ ဖွာခနဲ လွင့်ထွက်သွားပြီဗျို့။ ဟာ...ထွက်လာပြီဗျို့။ ဆရာကိုတက်ခါး ကျင်းပေါ်ကို မြောက်တက်သွားပြီဗျို့။ ကျင်းပေါ်ကို ဝါးတောင်လောက်အထိကို မြောက်တက်သွားတာ။ ဟာ...ငှက်လိုအကောင်ကြီးက ကိုတက်ခါးကို ဖမ်းဆွဲလိုက်ပြီ။ ဟာ...လည်ပင်းကိုလိမ်ချိုးလိုက်ပြီဗျို့။ ဟ...ကိုင်ပေါက်လိုက်တာဗျ။

"ဝုန်း"

သွားပြီ သွားပြီ ဆရာကိုတက်ခါး ဇက်ကြီးကျိုးပြီး မြေကျင်းထဲကို ဝုန်းခနဲနေအောင် ပြုတ်ကျသွားပြီဗျို့။

"ဟာ...ဆရာ ဆရာ"

ဇရပ်ထဲကလူတွေ ဝိုင်းအော်ကြတယ်။ တစ်ချို့က ဇရပ်အောက်ကို ပြေးဆင်းမယ်လုပ်လို့ ကျုပ်က အချိန်မီတားလိုက်ရတယ်။

"ဟေ့...ရပ်...တစ်ယောက်မှ အောက်မဆင်းနဲ့။ သေသွားလိမ့်မယ်"

ဒီတော့မှ ကြောက်လန့်သွားပြီး ကျုပ်ကို အားကိုးတကြီးနဲ့ ငေးကြည့်နေကြတယ်။

မဖဲဝါကြီးက ခေါင်းကြီးတညိတ်ညိတ်လုပ်နေတယ်ဗျ။ ပြီးတော့ လက်ပြလိုက်တယ်။ ငှက်လိုအကောင်ကြီးက ပျံထွက်သွားပြီး တခြားအကောင်ကြီးတွေလည်း လှည့်ထွက်သွားကြပြီ။ ဟော...သူပါသချိုင်းထဲက ထွက်သွားပြီဗျို့။ သချိုင်းကုန်း အစပ်လည်းရောက်ရော မဖဲဝါကြီး ပျောက်သွားရောဗျို့။ ကျုပ်လည်း ကြက်သေသေနေရတာပေါ့။

"ဟော့ လူတွေ ခတက်မီးပါရင် ထုတ်ကြ။ မီးတို မီးတို"

ဒီတော့မှ ဓာတ်မီးတွေထုတ်ပြီး ထိုးကြတာပေါ့ဗျာ၊ အားလုံးမြေကျင်းဆီကို ပြေးကြတာပေါ့။ အပေါ်မှာခင်းထားတဲ့ ပျဉ်ချပ်တွေလည်း ကျိုးပဲ့လို့ပေါ့ဗျာ။ မြေကြီးတွေ ဖယ်ပစ်ပြီး ပျဉ်ချပ်တွေ ထုတ်လိုက်ကြတယ်။

သွားပြီဗျာ ဆရာကိုတက်ခါးရဲ့ အလောင်းကြီးက မြေကျင်းထဲမှာ မှောက်ခုံကြီးများ ခက်ကြီးက လိမ်ပြီးကျိုးနေတယ်။ မျက်နှာကြီးက ကျောကုန်းဘက်ကိုတောင် ရောက်နေတာဗျို့။

ကျုပ်ကတော့ အားလုံးရှေ့မှာ တာဝန်ကျေကျေ လုပ်ပေးခဲ့တာမြင်ကြတာပဲလေ။ ဖြစ်သွားတဲ့ကိစ္စကတော့ ကျုပ်လည်း ဘာတတ်နိုင်မှာလဲဗျာ။ ဒါပေမဲ့ ဒီအဖြစ်အပျက်ကို မြင်လိုက်ရတာက ကျုပ်တစ်ယောက်တည်းဗျ။ အားလုံးကတော့ ဆရာကိုတက်ခါးသူ့ဖာသာ မြောက်တက်သွားပြီး ပြန်ပြုတ်ကြလာတာလို့ပဲ ထင်ကြတာပေါ့ဗျာ။ ငှက်လိုမကောင်းဆိုးဝါးကြီးက လည်ပင်းကိုလိမ်ချိုးသွားတာကို သူတို့တွေ့မှမတွေ့လိုက်တာ။

ဆရာကိုတက်ခါးနောက်ဆုံးကျင်းမအောင်ဘူးလို့ ထင်ကြေးပေးကြတာပေါ့။ တကယ်က ကိုတွက်ခါးဆိုတဲ့လူ ကိုးကျင်းအောင်သွားတာဗျ။ အောင်ပြီးမှ သူ့ရဲ့သီလမလုံမှုကြောင့် အသတ်ခံလိုက်ရတာ။ ဒါကို သိလိုက်တာက ကျုပ်တစ်ယောက်တည်းပဲရှိတာလေ။

အဲ အခုတော့ ခင်ဗျားပါသိသွားပြီပေါ့ဗျာ။

တာတေ

အရှေ့ဘက်တောင်းတင်

အရှေ့ဘက်ကောင်းကင်တာရာ

ခုနှစ်ရက်သားသမီးများ၏စိတ်နေစိတ်ထားနှင့်စရိုက်သဘာဝများ၊
နေ့သားအလိုက် လူမှုရေး၊ စီးပွားရေး၊ ကျန်းမာရေး သကြားချက်၊
ဗေဒင်ဆိုင်ရာ အတွက် တစ်နှစ်ချင်းစီဟောစာတမ်းများ
တစ်သက်တာ အတွက် ညွှန်ပြချက်များကိုဖော်ထားရသည့်
သကြားချက်များ.........စုံလင်စွာပါဝင်သည့်

# ခုနှစ်ရက်သားသမီးများ အတွက် ဘဝတစ်သက်တာဟောကိန်းများ

ဖိုး ၈၀၀

ဖြန့်ချိရေး


အရှေ့ဘက်ကောင်းကင်တာရာ

အမှတ်(၂၈၄)၊ ပထမထပ်၊ လမ်း(၄၀)၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်။

ဖုန်း - ၀၉ - ၄၄၈၀၀၄၇၆၁၀၆၊ ၀၉၄၂၁၀၈၅၆၁၉၄